بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

တတ်ကျွမ်းနားလည်မှုရှိကြသော
မောင်လာနာ မောင်လဝီ အာလင်မ်ကြီးများသည်
ခိုင်မာလုံလောက်သော ကျမ်းစာကြီးများမှ
တိကျမှန်ကန်စွာ ကောက်နုတ်ပြန်ဆိုထားရှိသော

## ရှရီအသ်တရားတော်မြတ်၏

# ဝကာပ်(ဖ်)

# စည်းမျဉ်းဥပဒေကျမ်း

ဦးဇင်–ပွဲစား
၈၃–လမ်း၊ တောင်ဘလူရပ်၊ မန္တလေးမြို့

မောင်လာနာ ဟာဖိဇ်မိုဟမ္မဒ် ယူနွတ်စ်
ဦးဘဒင် စွာဟာဗ် (رَحِمَهُ ٱللَّهُ)
ကြည့်ရှု၊ စစ်ဆေး၊ တည်းဖြတ်သည်။

# နိဒါန်း

ကြီးကျယ် မြင့်မြတ်တော်မူသော အလ္လာဟို့အရှင်မြတ်၏ အလိုတော်ဖြင့် ...

မန္တလေးမြို့၊ တောင်ဘလူရပ်နေ၊ ကျွန်တော် ပွဲစား ဦးဇင်က ဖြူစင်သော နိယသ်စေတနာကောင်းနှင့် ဤ ဝကပ်(ဖ်) စာတမ်း ဖတ်ရှုသူတို့အား အနည်းငယ်တင်ပြလိုပါသည်။ မည်မျှပင် ပညာတတ်မြောက်စေကာမူ ဝက်(ဖ်) အုပ်ချုပ်ရေး အတတ်ပညာများကို အလိုအလျောက် မတတ်မြောက်နိုင်ပါ။ အထူး သတ်သတ်သင်ယူလေ့လာမှသာ တတ်မြောက်နိုင်သည်။

ဝကပ်(ဖ်) အုပ်ချုပ်ရေးပညာကို နိုင်နင်းစွာ တတ်မြောက်လိုသူသည် မနေမနား လေ့လာဖတ်ရှုမှ ကျွမ်းကျင်မှု ရှိကြပါမည်။ ထို့ကြောင့် ဝကပ်(ဖ်) အုပ်ချုပ်ရေးလောကတွင်းရှိ ဝကပ်(ဖ်) လူကြီးများသည် သိအပ်၊ တတ်အပ်သော ကျွမ်းကျင်မှုကို ရယူကြပြီး ဝကပ်(ဖ်)လေ့ကျင့်ခန်းများ အသုံးပြုခြင်းအားဖြင့် ဗလီလူကြီးများ၏ ဆောင်ရွက်ချက်များ၊ အပြစ်လွတ်၊ ထမြောက်၊ အောင်မြင်လိမ့်မည်ဟု ယုံကြည်ပါကြောင်း ...။ ဤ ဝကပ်(ဖ်)စာတမ်းသည် မလွယ်ကူပါ။ နှစ်၊ လ များစွာ ဆည်းပူး၍ မောင်လဝီ-ပညာရှိကြီးများထံ ကျွန်တော် သည် မှန်ကန်သော တရားဝင်ဖြစ်ရန် အမျိုးမျိုး ပြောပြ၊ မေးမြန်း၍ မောင်လဝီကြီးများ ခိုင်လုံသော ကျမ်းစာ အစောင်စောင်မှ ထုတ်နှုတ်ရေးပေးကြသော ဝကပ်(ဖ်) စည်းမျဉ်းဖြစ်သည်။ မွတ်စ်လင်မ် အခြား

မြို့များကပါ ဝကပ်(ဖ်) စိတ်ဝင်စားသူ များစွာတို့၏ တိုက်တွန်းနိုးဆော်ချက်များ ဖြည့်တင်းနိုင်ရန် ယခုမှ အဆုံးသတ်ပြီး ထုတ်ဝေနိုင်ရပါ၍ ကျေနပ် ဝမ်းမြောက် ဝမ်းသာ ရှိသည့်အတွက် တိုက်တွန်း နိုးဆော်သူများအား အထူး ကျေးဇူးတင်ရှိပါသည်။

ကျွန်တော်က မြန်မာပြည်တွင် ဝကပ်(ဖ်) ရာဇဝင်သစ်တစ်ခု စတင် ဖွင့်လှစ်သွားသူအနေဖြင့်၊ ဝကပ်(ဖ်)နှင့် ပတ်သက်သော ကိစ္စအရပ်ရပ်ကို ကျယ်ဝန်း ပြည့်စုံစွာ မဆောင်ရွက်နိုင်ခဲ့ပြားသော်လည်း နောင်ကာလ၌ ယခု ဤ ဝကပ်(ဖ်) စာတမ်းထက် ကျယ်ဝန်း ပြည့်စုံသော အခြားကျွမ်းကျင်မှုရှိသူများက မွတ်စ်လင်မ်လူထုနှင့် ဗလီလူကြီးများအကျိုးငှာ ဆက်လက်ရေးသား ထုတ်ဝေနိုင်မည်ဟုလည်း မျှော်လင့်အပ်ပါသတည်း။

အို-အရှင်၊ ယခု ကျွန်တော် ထုတ်ဝေသော ဝကပ်(ဖ်) စည်းမျဉ်း ကျမ်းစာကို ဖတ်ရွတ်ကြည့်ရှုသူ အစ်(ခ်)ဝါနီ ယောက်ျား၊ မိန်းမ အပေါင်းကို အလ္လာဟို့ အရှင်မြတ်၏ ရဟ်မသ်တော် ဟေဒါယသ်တော် ပေးသနားတော်မူပါ။

بِسۡمِ ٱللَّهِ ٱلرَّحۡمَٰنِ ٱلرَّحِيمِ

نَحْمَدُهُ وَنُصَلِّيْ عَلَى رَسُوْلِهِ الْكَرِيْمِ

حَامِدًا وَمُصَلِّيًا

بِسۡمِ ٱللَّهِ ٱلرَّحۡمَٰنِ ٱلرَّحِيمِ

ပေးကမ်း စွန့်ကြဲတော်မူသော အလ္လာဟ့် အရှင်မြတ်၏ အစောင်အမဖြင့် ကျွန်တော်မျိုး အစပြုပါ၏။

ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် မြန်မာဘာသာဖြင့် ဤ ဝကပ်(ဖ်) စည်းမျဉ်းစာတမ်းကို မွတ်စ်လင်မ် ယောက်ျား၊ မိန်းမများ ဖတ်ရှုတော်မူကြရန် ရည်စူးပြီး တရားတော်နှင့် ကိုက်ညီအောင် ရေးသား ထုတ်ဝေလိုက်ပါသည်။

၁။ အလွန်တရာ နာမည်ထင်ရှား ကျော်ကြားသည့် စာရေး ဆရာကြီးများ ဖြစ်ကြသော အစ်ဗ်နေ့ ခလ်ဒူးန်၊ အလ္လာမာဟ် အစ်ဗ်နေ့ ကိုက်ယင်းမ်၊ အစ်ဗ်နေ့ ကဆီးရ် စသော စာရေးဆရာ၊ ရာဇဝင်ဆရာ ကြီးများက ရေးသားဖော်ပြထားသော စာစောင်များ၏ အဆိုများကို အောက်မှာ ဖော်ပြထားပါသည်။

၂။ ရစူလွလ္လာဟ် (ﷺ) ကိုယ်တော်မြတ်သည် စစ်ကြီးကို အောင်မြင်တော်မူသည့်အခါ မက္ကာဟ်ရွှေမြို့တော်ကြီးကို သိမ်းပိုက် တော်မူ၍ ငြိမ်းချမ်းသာယာစွာ ရှိနေစဉ် ရစူလွလ္လာဟ်(ﷺ) ကိုယ်တော် မြတ်သည် အစီးအနင်းနှင့် ဝင်ရောက်လာတော်မူခါ ကအ်ဗဟ်တော် ကြီးကို (၇)ကြိမ်တိုင် သွဝါးဖ်-လှည့်ပတ်တော်မူသည်။ အတ်စ်ဝဒ်-

ကျောက်မြတ်ကို ရွှေကြိမ်စကြာဖြင့် တို့သုံးတော်မူ၍ သုခရိပ်သာ၏ ရွှေသော့ထိန်း အွတ်ဆ်မာန် ဗင်န် သွလ်ဟာဟ် (ﷺ)ကို ဆင့်ခေါ်တော် မူရာ ရှေ့တော်မှောက်သို့ လာရောက်၍ ကအ်ဗဟ်တော်၏ ရွှေ သော့တော်ကို ရစူလွလ္လာဟ် (ﷺ)ကိုယ်တော်မြတ်၏ ရွှေလက်တော် ရောက် ဆက်သလိုက်လေ၏။

၃။ ထိုသော့တော်ကို ကိုယ်တော်မြတ်က ဖော်ရွှေစွာ လက်ဝယ် သိမ်းပိုက်တော်မူပြီးနောက် ကအ်ဗဟ်တော်၏ ရွှေတံခါးကို ဖွင့်စေ တော်မူ၍ ဝင်တော်မူပြီးလျှင် တဖန်ပြန်ထွက်လျက် သွဝါးဖ်ပြုသည့် အခါဝယ် ဟာဇရသ် အဗ္ဗားစ် (ﷺ)သည် ယခု မျက်မှောက်အချိန်ကာလ မှ စ၍ ရွှေသော့တော်ကို ကျွန်တော်မျိုးအား ချီးမြှင့်တော်မူပါဟု လျှောက်လျှင်လျှောက်ခြင်း ရွှေသော့တော်မြတ် အမာနသ်-အပ်နှင်း ရေးနှင့် စပ်လျဉ်းသည့် အာယသ်တော် ကျရောက်လာသည်နှင့်အညီ ရွှေသော့တော်ထိန်း ရာထူးကို လျှောက်ထားတောင်းဆိုသည့် ဘဒွေး တော် ဟာဇရသ် အဗ္ဗားစ် (ﷺ)အား မပေးတော်မူဘဲ ရိုးရာစဉ်လာ အတိုင်း အွတ်ဆ်မာန် ဗင်န် သွလ်ဟာဟ်(ﷺ) လက်သို့သာ ပြန်လည် ချီးမြှင့်တော်မူသည်ကို သစ္စာတော်ကြီးကြောင်း ချီးကျူးတော်မူ၍ အွတ်ဆ်မာန် ဗင်န် သွလ်ဟာဟ် (ﷺ)က အီမာန်ယူလိုက်သည်။ သွလ်ဟာဟ်သခင် အမိန့်တော်ကျခါနီး ညီတော် ရှိုင်ဗဟ် (ﷺ) လက်သို့ အပ်နှင်း ချီးမြှင့်လိုက်လေသည်။ ၎င်းခေတ် ကုန်ဆုံးပြီး အဗ်ဒွလ္လာဟ် ဗင်န် ဇိုပိုင်ရ် (ﷺ) ဘုရင်မင်းမြတ် စိုးစံချိန်အခါဝယ် ကအ်ဗဟ်ကျောင်း တော်ကြီး အသစ်တဖန် ပြန်လည်မွမ်းမံ တည်ဆောက်ပြီးလျှင် ကိုယ်

တော်မြတ် ထုံး ရွှေနုလုံးသွင်းတော်မူခါ အထက်ရိုးရာစဉ်လာအတိုင်း ရွှေသော့တော်ထိန်းရာထူးကို ချီးမြှင့်ခန့်ထား တင်မြှောက်ခဲ့တော်မူ လေသည်။

၄။ ဟာဂျီဂျားဂျ် ဗင်န် ယူစွတ်ဖ်က အဗ်ဒွလ္လာဟ် ဗင်န် မလစ်က် ဘုရင်မင်းမြတ် လက်ထက်တော်၌ ကအ်ဗဟ်တော် အသစ်တဖန် ပြန်လည် တည်ဆောက်ပြီးနောက် ရွှေသော့ထိန်းကိုင်သော အဆက် အနွယ်တော်များ လက်ဝယ် အစဉ်အလာအတိုင်း ရွှေသော့တော်ကို ပေးအပ် ချီးမြှင့်ခဲ့သည့်အလျောက် ယခု ပစ္စက္ခမျက်မှောက်ကာလတိုင် ထိုအနွယ်တော်များ လက်ဝယ်၌ ရွှေသော့တော် တည်မြဲလျက် ရှိနေ သည်ကို အထောက်အထားပြုခြင်းအားဖြင့် ဗလီတကာ ရွေးချယ် တင်မြှောက် ခန့်ထားရာ၌လည်း ထင်ရှားသော စံပြ သာဓကကြီး ဖြစ်သည့်အလျောက် ဗလီတကာ၏ သားမြေးအနက်မှ ဗလီတကာ အရည်အချင်းနှင့် ပြည့်စုံ ထိုက်တန်သူကိုသာ ခန့်ထားရမည်။ အကယ်၍ လက်ရှိဗလီတကာ ဖြစ်နေလျှင် အပြစ်မဲ့ ဖြုတ်မချနိုင်ခြင်း ကို မွတ်စ်လင်မ်တိုင်း အထူး သိနားလည်ရမည်။

သတ်ဖ်စီရ် လသွာအိဖုလ်ဗယာန်ကျမ်း (စာမျက်နှာ-၆၈၃)။

သတ်ဖ်စီရ် ဗယာနုလ်ကုရ်အာန်ကျမ်း (စာမျက်နှာ-၁၂၆)။

၅။ အကယ်၍ ကာဖိရ်-ဘာသာခြားက ဗလီသော်လည်း ကောင်း၊ ဇရပ်သော်လည်းကောင်း၊ ကျောင်းသော် လည်းကောင်း သို့မဟုတ် ဗလီအာမဒ္ဒနီ အတွက် အဆောက်အဦးသော်လည်းကောင်း

ဝကပ်(ဖ်)အဖြစ် ပြုလုပ်ပေးပါက လက်ခံနိုင်ခွင့်ရှိသည်။ ဝကပ်(ဖ်) အတည်ဖြစ်သည်။ [အာမဒ္ဒနီ= ဝင်ငွေ]

ဂါယသွလ် အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၅၆၅)။

၆။ ဗလီ၊ ကျောင်း၊ ဇရပ်၊ တိုက်၊ အိမ်၊ မြေယာ စသည့် မရွေ့ပြောင်းနိုင်သည့် ပစ္စည်းတို့ကို ဝကပ်(ဖ်) အတည်အဖြစ်သို့ ရောက်ရှိစေရာ၌ လှူဒါန်းသည့်အချိန်ကာလတွင် အလှူရှင်ကိုယ်တိုင် ပိုင်ဆိုင်သော ပစ္စည်းဖြစ်ရမည်။ ဂါယသွလ် အောင်သွားရ်ကျမ်း။

၇။ မြို့ရွာ လူနေကင်းရှင်း ခေါင်းပါး၍သော်လည်းကောင်း၊ မီးဘေး၊ ရေဘေးကြောင့်သော်လည်းကောင်း၊ လူနေနည်းပါး၍သော်လည်းကောင်း၊ နှစ်များကြာ၍ ဗလီ (ရှဟီးဒ်)ဖြစ်သော်လည်းကောင်း၊ အရပ်ဆင်းရဲနွမ်းပါးသဖြင့် ပြန်လည်မထူထောင်သေး၍လည်းကောင်း၊ အသုံးပြုနိုင်ရန် အလို့ငှာ မျှော်လင့်ချက်များ ကင်းရှင်းသွား၍သော်လည်းကောင်း မည်သို့ပင်ဖြစ်စေကာမူ ၎င်းနေရာသည် ကောယာမသ်တိုင် ဗလီအဖြစ်နှင့် တည်မြဲလျက် ရှိနေလေသည်။

ဂါယသွလ် အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၅၇၀)။

၈။ ဗလီတစ်လုံးတွင် သုံးစွဲရန် ငွေကြေး ကျပ်တည်းမှုနှင့် ကြုံတွေ့နေသည့်အခိုက် အခြားဗလီတစ်လုံးမှာ ဗလီ၏ ဝေယျာဝစ္စ အသုံးစရိတ် လုံလောက်စွာ သုံးစွဲပြီးနောက် လက်ကျန်ငွေများ ပိုမိုရှိနေသေးလျှင် ငွေကြေးလိုအပ်နေသော ဗလီအတွက် ၎င်းငွေများကို အကြွေးသဘောဖြင့် ချေးယူပိုင်ခွင့် ပြုထားသည်။

အာစတာနအ္ဓေ ဒစ်(ဟ)လီ။

၉။ ဝကပ်(ဖ်) ပြုလုပ် လှူဒါန်းထားသူက အခြားတစ်ဦးကို ဝကပ်(ဖ်)ပစ္စည်းများ အုပ်ထိန်းရန် လူကြီးအဖြစ် တင်မြှောက်ထားသည် မှန်သော်လည်း ဝကပ်(ဖ်)ငွေများကို လိုသည်ထက် ပိုမိုသုံးစွဲသော ဝကပ်(ဖ်) လူကြီးဖြစ်နေပါက ဝကပ်(ဖ်)လုံခြုံရေးအတွက် ၎င်းကို လက်ရှိရာထူးမှ ချပြီးလျှင် အခြားသူတစ်ဦးကို အစားထိုး၍ တင်မြှောက်ရမည်။

အာစတာနအေ့ ဒစ်(ဟ)လီ (စာမျက်နှာ-၈၇)။

၁၀။ ဝကပ်(ဖ်)မြေ ငှားရမ်းရာ၌ အငှားစာချုပ် ချုပ်ဆိုရာတွင် ကာလပိုင်း ၃-နှစ်ထက်ပို၍ ပြုလုပ် ချုပ်ဆိုခြင်း မပြုလုပ်ရ။ အကယ်၍ ပြုလုပ် ချုပ်ဆိုပါလျှင် ထိုစာချုပ်အတည်မဖြစ်။ ပျက်သွားသည်။

ဂါယသွလ် အောင်သွားရ်ကျမ်း (စတုတ္ထတွဲ၊ စာမျက်နှာ-၄)။

၁၁။ တိုက်များ၊ အိမ်များ၊ ဆိုင်များ ငှားရမ်းရာ၌ ၁-နှစ်ထက် ကာလပိုင်း ပိုမို၍ အငှားစာချုပ် ချုပ်ဆိုခြင်း မပြုလုပ်ရ။ ပြုလုပ် ချုပ်ဆိုပါလျှင် ထိုချုပ်ဆိုသည့်စာချုပ် အတည်မဖြစ်။

ဂါယသွလ် အောင်သွားရ်ကျမ်း (စတုတ္ထတွဲ၊ စာမျက်နှာ-၄)။

၁၂။ နှစ်ရှည်လများ အငှားစာချုပ် ချုပ်ဆိုလျှင် လက်ရှိခေတ်ဈေးနှုန်းထက် နောက်ခေတ်များတွင် ဈေးနှုန်းပိုမိုတိုးတက်သည့် ခေတ်ကာလအလိုက် ဝကပ်(ဖ်) တိုက်၊ မြေ၊ အိမ်များမှာလည်း ခေတ်ကာလ တန်ဖိုးထက် လျော့မသွားစေရန် ဗလီလူကြီးများက ကြိုးစားဆောင်ရွက်ကြရန် ထိုက်သည်။

ဂါယသွလ် အောင်သွားရ်ကျမ်း (စတုတ္ထတွဲ၊ စာမျက်နှာ-၄)။

၁၃။ ဝကပ်(ဖ်) လူကြီးများက ဝကပ်(ဖ်)မြေနှင့် တိုက်တာ အိမ်ယာများကို ကာလတန်ဖိုးထက်လျော့၍ ငှားရမ်းလျှင်၊ ငှားရမ်းနေထိုင်သူက ကာလတန်ဖိုး အပြည့်နှင့် ငှားရမ်းနေထိုင်ခကို ပေးရန် တာဝန်ရှိသည်။ နေထိုင်သည့်နေရာ ကြည့်၍ အတန်းအစားအလိုက် ခေတ်တန်ဖိုး တောင်းခံရန် ထိုက်သည်။

ဂါယသွလ် အောင်သွားရ်ကျမ်း (စတုတ္ထတွဲ၊ စာမျက်နှာ-၅)။

၁၄။ မြေနှင့် အိမ် ငှားရမ်းသော အခကြေးငွေများကို မည်သူတစ်ဦးတစ်ယောက်ကမျှ မတိုးဘဲနေခဲ့သော်၊ ခေတ်ကာလအလိုက် ဈေးနှုန်းတိုးတက်လာလျှင် မူလချုပ်ဆိုထားသည့် လက်ရှိစာချုပ်ကို ပ,လပ်၍ ဖျက်သိမ်းခွင့်ရှိသည်။ အကယ်၍ ဝကပ်(ဖ်)လူကြီးက မူလလက်ရှိစာချုပ်ကို ပ,လပ်ဖျက်သိမ်းခြင်း မပြုခဲ့လျှင် စာချုပ်တွင် အတည်ပြုထားသည့် မူလ အခအတိုင်း ငှားရမ်းနေထိုင်သူက အမြဲပင် ပေးရမည်။

ဂါယသွလ် အောင်သွားရ်ကျမ်း (စတုတ္ထတွဲ၊ စာမျက်နှာ-၅)။

၁၅။ ဝကပ်(ဖ်) မြေနှင့် တိုက်တာ၊ အိမ်ယာ ငှားရမ်းနေထိုင်သူက အခြားသူကို တဆင့်အငှားချထားရာ၌ မူလထက် ပိုမို ရရှိသည့် ငှားရမ်းခငွေကို မိမိ၏ ကိုယ်ကျိုးအတွက် မသုံးစွဲဘဲ ၎င်းဗလီသို့ပင် လှူဒါန်းရမည်။ ဥပမာ-တစ်လလျှင် ငွေတစ်ဆယ်ဖြင့် ငှား၍ နေထိုင်သူက တဆင့် အခြားသူကို တစ်ဆယ့်ငါးကျပ်နှင့် ငှားရာ၊ အပိုရရှိသည့် ငွေငါးကျပ်ကို မိမိကိုယ်ကျိုးအတွက် မသုံးစွဲထိုက်၊ ၎င်းဗလီသို့ ပြန်၍ လှူဒါန်းရမည်။

ဂါယသွလ် အောင်သွားရ်ကျမ်း (စတုတ္ထတွဲ၊ စာမျက်နှာ-၁၇)။

၁၆။ ဗလီတကာ အဆက်ရှိလျှင် သူတစ်ပါးကို ဗလီတကာ မခန့်ထိုက်၊ မူလဗလီတကာအဆက်များမှသာ အရာရာတွင် ကိုယ်ဖိရင်ဖိ ဆောင်ရွက်မည်။ များသောအားဖြင့် မူလ ဗလီတကာများက မိမိတို့ အဆက်များကို ဗလီတကာခန့်ခြင်း နှစ်မြို့ကြ၏။ သို့အတွက် မူလ ဗလီတကာ၏ အဆက်တွင် ဗလီတကာ အရည်အချင်းရှိသူကိုသာ ဗလီလူကြီးအဖြစ် ခန့်အပ်ရမည်။

ရှရ်ဟေ့ မိုဟမ္မဒီကျမ်း (တတိယတွဲ၊ စာမျက်နှာ-၂၃၄)

၁၇။ တရားတော်နှင့် ဆန့်ကျင်သည့် စည်းမျဉ်းများသည် တရားမဝင်သကဲ့သို့ လူတို့၏ အထင်အမြင်နှင့် ယူဆယုံကြည်ချက် စည်းမျဉ်းများသည်လည်း တရားမဝင်ချေ၊

အတ်ဒ်ဒွရ်ရုလ် မုခ်သားရ်ကျမ်း (စာမျက်နှာ-၄၄)

၁၈။ အတင်အဓမ္မ ဝင်ရောက်၍ ဗလီတကာလုပ်လိုသူများကို ဗလီတကာအဖြစ် မခန့်ရ။ ရှာမီကျမ်း၊ (တတိယတွဲ၊ စာမျက်နှာ-၅)။

၁၉။ ဗလီတကာ မခန့်ထိုက်သူကို တရားတော်နှင့်ဆန့်ကျင်၍ ဗလီတကာခန့်ခြင်း၊ ဗလီတကာ စည်းကမ်း ဖောက်လျှင်ဖောက်ခြင်း ဗလီတကာရာထူးမှ မဖြုတ်သော ဂျမာအသ်သားများသည် ကြီးလေးသော အပြစ်ထိုက်သူများ ဖြစ်သည်။

ဗဟ်ရုလ်ရ် ရာအိက်ကျမ်း (စာမျက်နှာ-၃၈၄)။

၂၀။ ရှရ်အ်-တရားတော်နှင့် ဆန့်ကျင်သည့် စည်းကမ်းဖြင့် တစ်စုံတစ်ရာသော ချုပ်ချယ်မှု၊ အာဏာစွက်ဖက်မှု မလုပ်ပိုင်။

ရှာမီကျမ်း (စာမျက်နှာ-၃၈၄)။

၂၁။ ဗလီလူကြီးရာထူးမှ ဖြုတ်ချခံရသူသည် အကယ်၍ ကောင်းမွန်လာလျှင် ထိုသူကို ပြန်လည်၍ အသစ်တဖန် ဗလီလူကြီး အဖြစ် ခန့်ထားလိုကြပါက ဆက်လက်ခန့်ထားနိုင်ခွင့်ရှိသည်။

ရှာမီကျမ်း (တတိယတွဲ၊ စာမျက်နှာ-၃၈၄)

၂၂။ ဗလီတည်ဆောက် ဝကပ်(ဖ်)လုပ်၍ ကိုယ်တိုင် အုပ်ချုပ် ဗလီတကာလုပ်ပြီး မည်သူ့ကိုမျှ ဗလီတကာ မခန့်အပ်ခဲ့ဘဲ ကွယ်လွန် သေဆုံးသွားလျှင် ဆက်လက် အုပ်ချုပ်ရန်အတွက်မှာ ကာသွီ၏ ယုံကြည်ချက်အပေါ် တည်သည်။

အာလမ်ဂီရီကျမ်း (စာမျက်နှာ-၉၉၉)

မှတ်ချက်။ ။ကာသွီမရှိသည့် နိုင်ငံမှာ ရပ်ကွက်ရှိ ဂျမာအသ်သား များ၏ ညီညွတ်ချက်နှင့် ဗလီလူကြီးများကို ရွေးချယ် တင်မြှောက်နိုင် သည်။

၂၃။ ကာသွီမရှိသည့် နေရာမှာ ဗလီဝင်ဂျမာအသ်သားများက ရွေးချယ်ပြီး သင့်တော်သော ပုဂ္ဂိုလ်များကို တင်မြှောက်ရန် ထိုက် သည်။

၂၄။ အကြောင်းမဲ့ သက်သက် ဗလီတံခါးများကို ပိတ်ထားခြင်း သည် မက်ရူဟ်သဟ်ရီမီ ဖြစ်သည်။ နမားဇ်ဖတ်ချိန် မဟုတ်သော အခါ၌သာ ဗလီပစ္စည်းများ လုံခြုံမှုအတွက် ပိတ်ထားပိုင်သည်။

အာလမ်ဂီရီ၊ ဟေဒါယာကျမ်း။

၂၅။ အသုံးမချနိုင်သည့် ရွှေ့ပြောင်းနိုင်သော ဗလီပစ္စည်းများ ကို ဗလီလူကြီးများက ထိုပစ္စည်း၏ အလှူရှင်ကိုဖြစ်စေ၊ သို့မဟုတ်

အမွေဆက်ခံသူကိုဖြစ်စေ ပေးအပ်ရမည်။ အမွေဆက်ခံသူများ မရှိလျှင် ဂျမာအသ်ဝင် မွတ်စ်လမ်လူအများ သဘောနှင့် ရောင်းပိုင်ခွင့်ရှိသည်။ ၎င်းရောင်းရသည့် အဖိုးငွေကို ဗလီ၏အသုံး၌ ထည့်သွင်းရမည်။

၂၆။ ဗလီတည်ဆောက်ရန် အုတ်သစ်များဝယ်ထားရာ ဗလီအမှုအခင်း နှစ်ကြာရှည်မည့်အတွက် ခေတ္တရပ်နားနေရ၍ လက်ရှိအုတ်များကို ကဗရ်တံတိုင်း စသည်တို့တွင် သုံးစွဲပြီး အမှုအခင်းပြီးပြောက်သည့်အချိန် ဗလီ ဆက်လက်တည်ဆောက်သည့်အခါ၌ အုတ်သစ်များ တဖန်ထပ်ဝယ်ပြီး သုံးစွဲပိုင်ခွင့်ရှိသည်။

အာလမ်ဂီရီကျမ်း (ဝကပ်(ဖ်)ခန်း)

၂၇။ အလွဲသုံးစားမှုများမှ လုံးဝကင်းရှင်းပြီး ဘာသာတရားကို လေးစားစွာ ဆည်းကပ်လိုက်နာသည့် တကယ်ရိုးသားသော ဗလီလူကြီးများက ဝကပ်(ဖ်)စည်းကမ်းများကို တိကျမှန်ကန်စွာနှင့် တာဝန်ဝတ္တရားများ လိုသည်မရှိရအောင် ကျေပွန်စွာရှိပါလျက်၊ အတိုက်အခံဘက်က ဖွတ် အတင်း အမှုရှာကြံသောကြောင့် ရုံးသို့ တရားစွဲဆိုရာ၌ တရားခံအဖြစ်နှင့် တရားခံတွေ့ရသည့် ကုန်ကျစရိတ်ကို ဗလီပိုင်ငွေများမှ သုံးစွဲပိုင်ခွင့်ရှိသည်။

၂၈။ ဗလီလူကြီးများအချင်းချင်း ကိုယ်ကျိုးအတွက်သက်သက် ရုံးရောက် အမှုဖြစ်ကြရာတွင် နှစ်ဘက်လူကြီးများ၏ ရုံးကုန်ကျစရိတ်ကို ဗလီပိုင်ငွေနှင့် မည်သို့မျှ သုံးစွဲပိုင်ခွင့်မရှိ။

၂၉။ ဗလီ လူကြီးများကလည်း ပေါ့လျော့၊ အရပ်သားများကလည်း မပြောမဆိုကြသဖြင့် ဗလီနှင့် အာမဒ္ဒနီတိုးတက်သင့်လျက် မတိုးတက်ဘဲ ဆုပ်ယုတ်နေသည်ကို ကြည့်မနေနိုင်သောကြောင့် တစ်ဦးတစ်ယောက်က အရေးယူတရားစွဲ၍ လက်ရှိဗလီလူကြီးများ ဖြုတ်ချပြီး သင့်တော်သော ဗလီလူကြီးသစ် တင်မြှောက်ရာ၊ ရုံးကုန်ကျ စရိတ်ကို ဗလီငွေမှ မသုံးစွဲဘဲ အရပ်သားများက စုပေးကြရမည်။ ဗလီပေါ်၌ တာဝန်မတင်စေရ။

၃၀။ ဝကပ်(ဖ်) ပြုလုပ်စွန့်လွှတ်လှူဒါန်းသည့်ဗလီ၊ ကျောင်း၊ တိုက်၊ အိမ်၊ မြေ စသည်တို့ကို အုပ်ချုပ်သော မိုသဝလ္လီ ထရပ်စတီ အဖွဲ့ဝင်လူကြီးများသည် တရားတော်အရ ညှိနှိုင်းတိုင်ပင်ကြပြီး အကျိုးတူ၊ အလုပ်တူဟူသော သဘောထားများဖြင့် စည်းလုံးညီညွတ်စွာ ရွက်ဆောင်သွားကြရန် ထိုက်ပေသည်။

၃၁။ မြို့ကြီးအလိုက်၊ ရွာကြီးအလိုက်၊ ဗလီအလိုက် အဖွဲ့များကို ၅-ဦးမှ လိုသလောက် ဦးရေမကန့်သတ်ဘဲ ဖွဲ့စည်းရန် အစည်းအဝေးကို တစ်လလျှင်တစ်ကြိမ် သို့မဟုတ် ၃-လလျှင် တစ်ကြိမ်ခေါ်ယူရန်၊ အရေးပေါ်ကိစ္စအတွက် အထူးလိုအပ်လာသောအခါ တင်ကြို အကြောင်းကြားစာဖြင့် ဖြစ်စေ၊ လူကိုယ်တိုင် လွှတ်၍ဖြစ်စေ ဥက္ကဋ္ဌ၏ အမိန့်ဖြင့် ဖိတ်ခေါ်ရန်၊ အစည်းအဝေးပြုလုပ်ရန် ကန့်သတ်ထားသော ကော်လန် လူဦးရေ မပြည့်စုံက ရက်ရွှေ့ဆိုင်းထားနိုင်သည်။

၃၂။ မိုသဝလ္လီ အဖွဲ့ဝင် အသီးသီးတို့သည် အထွေထွေ ဝကာပ်(ဖ်) ပစ္စည်းများကို မိမိတို့ ကိုယ်ပိုင်ပစ္စည်းများထက် အဆပေါင်း များစွာ ကြိုးစားအားထုတ်ပြီး ထိန်းသိမ်းစောက်ရှောက်ရမည်။

အဇီဇွလ်ဖသာဝါကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၈၆)

၃၃။ မူလ ဆောင်ရွက်လျက်ရှိသော မိုသဝလ္လီမှာ ရာထူးမှ လျှောကျ ကွယ်လွန်သည်ဖြစ်စေ၊ သို့မဟုတ် ရာထူးမှ နုတ်ထွက်သည် ဖြစ်စေ၊ အခြားအုပ်ထိန်းသူက ခန့်ထားလိုက်သည့်အတွက် မူလရှိရင်း စည်းမျဉ်းအတိုင်း လိုက်နာ သုံးစွဲခြင်းကို အပြောင်းအလဲ မပြုလုပ်ရ။

၃၄။ ဝကာပ်(ဖ်)၏ ဆွေမျိုးများတွင် မိုသဝလ္လီအခွင့်အရေးနှင့် ပြည့်စုံသူရှိနေပါလျက် အခြားသူတစ်ဦးကို မိုသဝလ္လီ လူကြီးအဖြစ် ခန့်အပ်တင်မြှောက်ခြင်း မပြုရ။

ဒွရ်ရွလ်မုခ်သားရ်ကျမ်း (စာမျက်နှာ-၄၄၃)။

၃၅။ အုပ်ထိန်းသူသည် အလွဲသုံးစား ပြုလုပ်သည်ဖြစ်စေ၊ အုပ်ထိန်းခြင်းတွင် မလည်ပတ်သည် ဖြစ်စေ၊ အိုမင်း မစွမ်းသည် ဖြစ်စေ၊ ဖာစစ်က်-ဆိုးသွမ်းဖောက်ပြန်သည်ဖြစ်စေ၊ အဂ္ဂိယထိုးသည် ဖြစ်စေ၊ လောင်းကစား သောက်စားသည်ဖြစ်စေ ရှိလာလျှင် ဗလီ လူကြီး၏ ရာထူးမှ အမြန်ဖြုတ်ချလိုက်ရမည်။

ဘတ်ဟ်ဇာဇီယာဟ်နှင့် အတ်ဒ်ဒွရ်ရုလ် မုခ်သားရ်ကျမ်း (စာမျက်နှာ-၄၃၄)။

၃၆။ အုပ်ထိန်းသူများသည် အရှင်မြတ်၏ ကိုယ်စားလည်တော် များ ဖြစ်ကြသည့်အလျောက် အရှင့်အလိုတော်ကျ ရွတ်ရွတ်ချွန်ချွန် ရွက်ဆောင်မှသာ အလ္လာဟုအရှင်မြတ်က ကျေနပ်တော်မူမည်။

၃၇။ ဗလီငွေ အလွဲသုံးစားပြုလုပ်၍ ဝကပ်(ဖ်)စည်းကမ်းများကို ကျူးလွန်စော်ကားကြသော ဗလီလူကြီးများကို ရာထူးမှ အမြန်ဖြုတ်ချရန် အရပ်သားများက တရားစွဲရာ၌ ရုံးကုန်ကျစရိတ် ဗလီပိုင်ငွေမှ သုံးစွဲပိုင်ခွင့် အကျွမ်းဝင်ပြောပါသော်လည်း အရပ်သားများက မိမိတို့ ကိုယ်ပိုင်ငွေများ သုံးစွဲသည်က ပိုမို၍ စိတ်ချရပါသည်။

၃၈။ ဗလီအတွင်း ဆေးချယ်ရာတွင် ရွှေမှုင်၊ ငွေမှုင်တို့ဖြင့် ဝကပ်(ဖ်)ငွေများနှင့် ဝယ်၍ချယ်လျှင် ဟာရာမ်ဖြစ်သည်။ ၎င်းအတွက် ကုန်ကျသည့်ငွေများ လျှော်ရန် တာဝန်ရှိသည်။

သန့်ရှင်းသော ကိုယ်ပိုင်ငွေများနှင့် ဗလီမှာ ရွှေမှုင်၊ ငွေမှုင်သုတ်ခြင်း၊ ဆေးချယ်ခြင်းများ လုပ်လိုက လုပ်နိုင်ခွင့်ရှိသည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ပထမတွဲ၊ စာမျက်နှာ-၃၀၇)

၃၉။ ဗလီမြေကွက်တွင် နေပူပြင်းသည့်အချိန် အရိပ်ခိုရန်နှင့် ထင်း သို့မဟုတ် အသီးများ ဗလီ၏ အကျိုးကျေးဇူးအတွက် စိုက်လျှင် ဗလီမြေကွက်များ၌ သစ်ပင်များ စိုက်ပိုင်သည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ပထမတွဲ၊ စာမျက်နှာ-၃၀၈)

၄၀။ သစ်ပင်စိုက်သည့်အတွက် ဗလီမှာ တစ်စုံတစ်ရာ အကျိုးမသက်ရောက်ဘဲ ဗလီမြေကွက်လည်း ကျဉ်းကျပ်ပြီး ရသည့်ထင်းနှင့် အသီးများကို စိုက်သူက အကျိုးကျေးဇူး ခံစားသည်ဖြစ်စေ၊ သို့မဟုတ် ကာဖိရ်များ ဘုရားရှိခိုးကျောင်းတွင် စိုက်လေ့ရှိသည့် အလုစိုက်ပန်းခြံမျိုးဖြစ်လျှင် ဗလီမြေကွက်တွင် စိုက်ခွင့်မရ။

ဂါယသွလ်အောင်သွားရ်ကျမ်း (ပထမတွဲ၊ စာမျက်နှာ-၃၀၉)

၄၁။ ဗလီလူကြီးအား တစ်စုံတစ်ရာ အကျင့်ဆိုးနှင့် အလွဲသုံးစားမှု မရှိသမျှကာလပတ်လုံး လက်ရှိရာထူးမှ ချပိုင်ခွင့်မရှိ။ သို့ရာတွင် ပထမ အစကမှု ဤကဲ့သို့သောသူကို မတင်ရ။

ရှရ်အေ့မိုဟမ္မဒီကျမ်း (ပထမတွဲ၊ စာမျက်နှာ-၉၇)

၄၂။ ရှိစုမဲ့စုကလေးကိုပင် ပေါင်နှံရသည့် အခြေမျိုးသို့ ရောက်ရှိနေသော မရှိနွမ်းပါးသည်လည်းကောင်း၊ ကြွေးဝိုင်းလျက်နေသောသူနှင့် အိပ်ရာဖျာကပ်ဖြစ်နေသော လူမမာ စသည်တို့သည် မိမိတို့နေသော အိမ်၊ မြေ စသည့် မရွှေ့မပြောင်းနိုင်သော ပစ္စည်းများကို ဝကပ်(ဖ်) မပြုမလုပ်နိုင်။

ရှရ်အေ့မိုဟမ္မဒီကျမ်း (ပထမတွဲ၊ စာမျက်နှာ-၉၉)

၄၃။ ဝါကစ်ဖ် ကိုယ်တိုင်ဖြစ်စေ သို့မဟုတ် တဆင့်ခန့်ထားခြင်းခံရသူဖြစ်စေ၊ ဝကပ်(ဖ်)စာချုပ်စာတမ်းတွင် ၎င်းတို့အား လက်ရှိအစိုးရနှင့် အခြားသူများကပါ ရာထူးမှ ချနိုင်ခွင့်မရှိရဟု အဘယ်မျှလောက်ခိုင်မာလုံလောက်အောင် စည်းကမ်းချက်များ ရေးသားပါရှိသော်ငြားလည်း ဝကပ်(ဖ်)စည်းမျဉ်း၌ အပြစ်ကျူးလွန်မှု ရှိလျှင်ရှိခြင်း ရာထူးမှ အလိုလျောက် ကျသွားတော့၏။ အကယ်၍ မသိသည်ဖြစ်စေ၊ မသိချင်ဟန်ဆောင်သည်ဖြစ်စေ၊ အလွဲသုံးစားမှု ကျူးလွန်သူများအား မနိုင်နိုင်ရာမှ ဖြုတ်ချပစ်ရမည်။ အတ်ဒ်ဒွရ်ရွှလ် မုခ်သားရ်ကျမ်း (စာမျက်နှာ-၄၃၆)။

၄၄။ မိုသဝလ္လီအဖွဲ့၏ စည်းဝေးဆုံးဖြတ်ချက်သည် ရှရီအသ်တရားတော်နှင့် မကိုက်ညီသည်ရှိသော် ထိုဆုံးဖြတ်ချက်ကို လိုက်နာရန် မလို။ အတ်ဒ်ဒွရ်ရွှလ် မုခ်သားရ်ကျမ်း (စာမျက်နှာ-၄၄)။

၄၅။ ဝကပ်(ဖ်) စည်းကမ်းချက်များကို မိမိအကျိုးအတွက် သို့မဟုတ် သားမြေးများအတွက် အစဉ်သဖြင့် ထင်သလို ချယ်လှယ်နိုင်ခွင့် ရရှိစေရန် ကြံစည်လုပ်ပိုင်ခွင့်မရှိ၊ တရားတော်က ပေးအပ်သည့် အခွင့်အရေးထက် သာပိုသည့်အခွင့်အရေးကို မည်သူမျှ မရရှိသည်ကို လည်းဆယ်ပြီး လုပ်လိုသူအား ရွေးချယ်တင်မြှောက်ခြင်း မပြုရ။

ရှာမီကျမ်း (စာမျက်နှာ-၃၈၄)။

၄၆။ ဝကပ်(ဖ်) အဆောက်အဦးကိုသော် လည်းကောင်း၊ ဝကပ်(ဖ်) ပစ္စည်းကိုသော်လည်းကောင်း အလွဲသုံးစား ပြုလုပ်သော အုပ်ထိန်းသူ မိုသဝလ္လီကို ဖြုတ်ချပြီးလျှင် ဝကပ်(ဖ်) ပစ္စည်းများကို အမြန်ထိန်းသိမ်းထားကြရမည်။ တက်နိုင်ပါလျက် လျစ်လျူရှုနေကြလျှင် ထိုလက်ပိုက်ကြည့်နေသူ၊ လျစ်လျူရှုနေသူတို့သည် ကြီးလေးသော အပြစ်ဒဏ်ကို အလူးအလဲ ခံကြရမည်။

၄၇။ ဝကပ်(ဖ်) ပစ္စည်းများကို ထိန်းသိမ်းရန် ခန့်အပ်ထားသော အချိန်ကာလတွင် တရားတော်ကို ရိုသေလေးစား၍ လိုက်နာသည့် ပုဂ္ဂိုလ်များသာလျှင် ရွေးချယ်ခန့်အပ်ရမည်။

၄၈။ ဗလီလူကြီးများ၏ သဘောကွဲလွဲမှု ပေါ်ပေါက်သည့် အချိန်တွင် မဲခွဲစနစ်မသုံးရ၊ များရာလည်း လိုက်နာခြင်းမပြုရ၊ တရားတော်မြတ်နှင့်အညီ ရှိသူများသာလျှင် အုပ်ချုပ်ကြရမည်။ တရားတော်မြတ်နှင့် မညီသော ဆုံးဖြတ်ချက်ချသူ၊ လိုက်နာသူများအား အပြစ်ဒဏ်ခတ်တော်မူမည်ဟု တရားတော်မှာ ပါရှိလေသည်။

ဖသာဝါအင်မ်ဒါဒီယာဟ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၈၆၊ ၈၇၊ ၈၈)။

အတင်းဒွန်းရှလ်မုန်းသားရဲ့ကျမ်း (တတိယတွဲ၊ စာမျက်နှာ-၃၈၄၊ ၃၈၅)။
ရာမီကျမ်း (စာမျက်နှာ-၃၈၄)။

၄၉။ ဝကာပ်(ဖ်) မြေဖြစ်စေ၊ အိမ်ဖြစ်စေ ဝကာပ်(ဖ်)လူကြီးများက ငှားရမ်းရာတွင် လပိုင်း သို့မဟုတ် နှစ်ပိုင်းနှင့် စာချုပ် မချုပ်ဆိုခဲ့ဘဲ အငှားချထားလျှင် အိမ်အတွက် ၁-နှစ်အတည်ဖြစ်ပြီး မြေအတွက်ဆိုလျှင် ၃-နှစ်တည်မြဲသွားလေသည်။

ရှရ်အေ့မိုဟမ္မဒီကျမ်း (ပထမတွဲ၊ စာမျက်နှာ-၁၀၀)

၅၀။ မြေငှား၊ အိမ်ငှားအတွက် လပိုင်း၊ နှစ်ပိုင်းနှင့် စာချုပ်ချုပ်ဆိုပြီးသည့်နောက် ခေတ်အခြေအနေ ပြောင်းလဲပြီး မြေငှားခ၊ အိမ်ငှားခ ပိုမိုသည်ဖြစ်စေ၊ လျော့နည်းသည်ဖြစ်စေ ရှိခဲ့သော်ငြားလည်း မူလစာချုပ်အတိုင်း အတည်ပြုရမည်။ ၎င်းနောက် နှစ်စေ့ရောက်သော အခါ ၎င်းအိမ်ခ၊ မြေခ အပို အလျော့အတွက် နောက်ထပ်အသစ်တဖန် စာပြန်ချုပ်ရမည်။

ရှရ်အေ့မိုဟမ္မဒီကျမ်း (ပထမတွဲ၊ စာမျက်နှာ-၁၀၀)၊

၅၁။ မြေယာ၊ အဆောက်အဦး၊ ကျောင်း၊ ဗလီ စသည်တို့ကို စွန့်လွှတ်လှူဒါန်း ဝကာပ်(ဖ်)ပြုလုပ်သွားသူအတွက် ကေယာမသ်တိုင် မပြတ်တန်း ကုသိုလ်-ဆဝါးဗ်များ ရသည့်အလား ၎င်းမြေယာ၊ အဆောက်အဦး၊ ကျောင်း၊ ဗလီ စသည့်ကိစ္စနှင့်ပတ်သတ်ပြီး တဆင့်မှ တဆင့် တာဝန်နှင့်ဖြစ်စေ၊ တာဝန်မဲ့ဖြစ်စေ လူအား၊ ငွေအား၊ အကြံဉာဏ်အားတို့ဖြင့် တိုးတက်ကောင်းမွန်အောင် ကိစ္စအဝဝ၌ ပါဝင်ဆောက်ရွက်သူများလည်း အထက်က လှူဒါန်းခဲ့သော အလှူရှင်များ

နှင့်မခြား ကုသိုလ်-ဆဝါးဗ် ထပ်တူထပ်မျှ ရရှိကြမည်။ ၎င်း စောင့်ရှောက် ထိန်းသိမ်းကြသောသူများသည် သဲတစ်ဆုပ်မကုန်၊ ငွေကြေးလည်း မကုန်ကြဘဲ ဗလီတကာ၊ ကျောင်းတကာများနည်းတူ အကျိုး-ဆဝါးဗ်ကို ကေယာမသ်တိုင် ရကြမည်ဖြစ်ပါသတည်း။

ကာနူးနေ့ မတ်စ်ဂျစ်ဒ်ကျမ်း (စာမျက်နှာ-၈)

၅၂။ မိုသဝလ္လီ အဖွဲ့ဝင်များက ဝကပ်(ဖ်) အာမဒ္ဒနီငွေကြေးကို တိုးတက်ရာ တိုးတက်ကြောင်း ရှာကြံပြီး ၎င်းငွေကြေးကို သုံးစွဲပုံ သုံးစွဲနည်းများသည် တရားစည်းမျဉ်း၌ ညွှန်ကြားထားချက်အရ အသုံးစာရင်း ထားရှိရန် ကြိုးစားဆောင်ရွက်ရမည်။ ၎င်းမိုသဝလ္လီအဖွဲ့ပိုင် တံဆိပ်တစ်ခုလည်း ရှိစေရမည်။

၅၃။ ဗလီပိုင်ငွေများကို တခြားငွေများနှင့် ရောနှောထားပါက အပြစ်ကြီးလေး၏။ ၎င်းငွေများကို ဗလီ၌ သုံးသင့်သုံးထိုက်သည့် ကိစ္စများအတွက် သုံးစွဲပြီးမှ အပြစ်လွတ်သည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (စာမျက်နှာ-၁၄၆)

၅၄။ ရှရီအသ်-တရားတော်တွင် မိမိတို့၏ အကြံညာဏ်များ မစွက်ဖက်ရ။ (ဝါ) မသွတ်သွင်းအပ်။ တရားတော်၏လမ်း၌ လူတို့၏ အမုန်းအဆ အတွေးအခေါ်များ မဝင်ရ။ ဆင်ခြေလည်း မပေးထိုက်။ အရှင်၏အလိုတော်ကျ တစ်မျိုးတည်းသာ မပျက်မကွက် လိုက်နာကြရန်သာ အဓိက ဝတ္တရားဖြစ်သည်။

၅၅။ ဗာနီ-ဗလီဆောက်လုပ်သူသည် ဗလီဆရာနှင့် မိုအဇ္ဇင်န်စသည့်တို့ကို ခန့်ထားရာ၌ အခွင့်အရေး ပို၍ရရှိ၏။ သို့ရာတွင် ဗလီ

ဂျမာအသ်က မူလ ဗာနီက ခန့်ထားသောသူများထက် အရည်အချင်းသာပိုသူကို ခန့်လိုလျှင် ဗလီဝင်ဂျမာအသ်က အခွင့်အရေး ပိုမိုရရှိကြလေသည်။ ဤနည်းတူ မူလဗလီတကာက တရားတော်နှင့် မညီသူကို ခန့်ထားလျှင်လည်း ဂျမာအသ်က တရားတော်နှင့်ညီသည့် ရှေ့ဆောင်ကို ခန့်ထားပိုင်ခွင့်ရှိသည်။

အတ်ဒ်ဒွတ်ရ်ရွှလ်မုခ်သားရ်ကျမ်း (စာမျက်နှာ-၄၄၃၊ ၄၄၄)။

၅၆။ ဝကပ်(ဖ်)ရငွေမှ ဝကပ်(ဖ်)အဆောက်အဦးကို ပထမပြင်ရမည်။ ထို့နောက် အကယ်၍ ရှရ်အီ ကျောင်းအတွက်ပါ ဝါကစ်ဖ်က မှာထားခဲ့ပါလျှင် ရှရအ်နှင့်အညီ သင်ပြသော ဆရာကြီး၊ မော်လဝီကြီးများကို ထိုက်သည့်အားလျော်စွာ ရိက္ခာစသည်တို့ကို ထိုက်သင့်သလိုချီးမြှောက် ထောက်ပံ့ရမည်။ ၎င်းဗလီနှင့် သင့်လျော် လိုအပ်သည့် အသုံးအဆောင်ဖြစ်သော ဆီမီး၊ ဖယောင်းတိုင်အတွက်လည်း သုံးရမည်။

ဗဟ်ရွှလ်ရ်ရာအိက်နှင့် အတ်ဒ်ဒွရ်ရွှလ်မုခ်သားရ်ကျမ်း။

၅၇။ ကျောင်းဆရာများကို ကျောင်းပိတ်ရက်အတွက် လစာအပြည့်နှင့် ခွင့်ပေးနိုင်သည်။ ဗလီဆရာနှင့် မိုအဇ္ဇင်န်တို့ကို အိမ်သူအိမ်သားများနှင့် ဆွေမျိုးညာတိများ၏ သာမှု၊ နာမှုများအတွက် အကြောင်းချင်းရာတို့ကို ထောက်ရှု၍ လစာအပြည့်နှင့် ခွင့်ပေးနိုင်၏။

၅၈။ ဗလီဆရာ၊ မိုအဇ္ဇင်န်နှင့် ကျောင်းဆရာများအား အဖြာဖြာသော အရေးကြီးကိစ္စများအတွက် လစာအပြည့်နှင့် ခွင့်ပြုရာတွင် ဗလီလူကြီးများမှာ အပြစ် တစ်စုံတစ်ရာမရှိ။ အကြောင်းမဲ့ ပျက်ကွက်သည့်

ရက်များကို နှိမ်ပြီးပေးရမည်။ သို့ရာတွင် ဤရက်ပျက်အတွက် နှိမ်မည့် အကြောင်းကို ပထမက အသိပေးထားရန် လိုသည်။

၅၉။ ဗလီဆရာနှင့် မိုအဇ္ဇင်န်တို့သည် မိမိတို့၏ တာဝန်ကို ကျေပွန်စွာ ဆောင်ရွက်နေရာမှ မကျန်းမာ၍ တာဝန်များ ကျေပွန်စွာ မရွက်ဆောင်နိုင်သော်ငြားလည်း ဗလီဆရာနှင့် မိုအဇ္ဇင်န်တို့အား ၆-လ တိတိ အလုပ်မှ မပယ်မထုတ်ထိုက်။ ၆-လထက် အချိန်ကာလ ကျော်လွန်သွားမှသာလျှင် ဗလီပိုင်ငွေပေးခြင်းမှ ရပ်စဲရမည်။ ဗလီ လူကြီးများက စေတနာ ထက်သန်သည့်အလျောက် ပေးလိုလျှင် မိမိပိုင်ငွေမှ ပေးနိုင် သည်။ သို့မဟုတ် အလုပ်မှ ရပ်စဲနိုင်သည်။

၆၀။ ဗလီဆရာနှင့် လူကြီးများမှာ စည်းမျဉ်းမရှိသေမီ ဗလီ ဆရာက လူကြီးများထံ ခွင့်ပန်းခြင်း၊ အကြောင်းကြားခြင်း မရှိဘဲ ၃-လ မိမိ၏တာဝန်ကို မကျေပွန်လျှင် အလုပ်မှ ရပ်စဲနိုင်သည်။ အကြောင်း နှင့်သော်လည်းကောင်း၊ အခွင့်နှင့်သော်လည်းကောင်း သွားလျှင် အလုပ်မှ မရပ်စဲနိုင်။ လစာလည်း အပြည့်ပေးရမည်။

၆၁။ မူလကဖြစ်စေ၊ နောက်မှဖြစ်စေ စည်းမျဉ်းရေးဆွဲအတည် ပြုထားသော ဗလီဆရာနှင့် မိုအဇ္ဇင်န်တို့သည် ၎င်းစည်းမျဉ်းအတိုင်း လိုက်နာဆောင်ရွက်ရန် တာဝန်ရှိသည်။ တရားသော စည်းမျဉ်း အတိုင်း လုပ်ဆောင်ရာတွင် အပြစ် တစ်စုံတစ်ရာမရှိပါ။ စည်းမျဉ်း ရေးဆွဲရာရာတွင် တရားတော်နှင့်အညီ တတ်နိုင်သမျှ သက်ညှာရ မည်။

၆၂။ ဗလီဆရာ၊ မိုအဇ္ဇင်န်နှင့် ကျောင်းဆရာများအား ဝဇီဖာဟ် ထောက်ပံ့ကြေး ချီးမြှင့်ရာ၌ လေ့နှံ ဒါးထစ်သဘော ဈေးနှုန်း တသမတ်တည်း သတ်မှတ်၍ မထားရပေ။ ငွေ၏တန်ဖိုး အတက်-အကျနှင့် ရှားပါး ပေါများသော တက်ဈေး၊ ကျဈေးကိုကြည့်၍ ထောက်ပံ့ရမည်။ ဗလီဆရာနှင့် ကျောင်းဆရာ၏ သားသမီး ဦးရေကို ကြည့်ပြီး သင့်သလောက် စားသုံးနိုင်လောက်အောင် ထောက်ပံ့ ချီးမြှင့်ရမည်။

၆၃။ ဗလီဆရာ၊ မိုအဇ္ဇင်န်နှင့် ကျောင်းဆရာများကလည်း ဝကပ်(ဖ်)ငွေများမှ လခငွေကို လျှော့ပေါ့နိုင်သရွေ့ လျှော့ပေါ့၍ ယူကြရန် သင့်တော်ပါသည်။

၆၄။ ဗလီတကာနှင့် ဗလီလူကြီးများက ဗလီဆရာ၊ မိုအဇ္ဇင်န် နှင့် ကျောင်းဆရာများကို ကာလတန်ဖိုး အတိုးအလျှော့ ခေတ်၏ဈေး ကို ထောက်ရှုပြီး ထိုက်သင့်သလို ထောက်ပံ့ ချီးမြှင့်ရမည်။

၆၅။ ဗလီဆရာ၊ မိုအဇ္ဇင်န်နှင့် ကျောင်းဆရာတို့ကလည်း ခွင့်နှင့်သွားလျှင် လစာဖြည့်မယူရန် သင့်တော်ကောင်းမြတ်လေသည်။ သို့သော် ယူလျှင်လည်း အပြစ်မရှိပါ။

၆၆။ အပြင်အပမှ ဝင်ငွေရှိကြသော ဗလီဆရာ၊ မိုအဇ္ဇင်န်နှင့် ကျောင်းဆရာတို့သည် ဝကပ်(ဖ်)ငွေမှ လခထောက်ပံ့ကြေးကို လျှော့ ယူကြရန် သင့်သည်။ လုံးဝ မယူဘဲ နေနိုင်လျှင် များစွာမွန်မြတ်ပါ သည်။

၆၇။ အပြင်အပမှ ဝင်ငွေရှိသော ပုဂ္ဂိုလ်များကို ဂေါပကလူကြီး များ (ထရပ်စတီ)က လစာငွေများကို လျှော့ပေးနိုင်ခွင့် ရှိသည်။

၆၈။ ဗလီဆရာ၊ မိုအဇ္ဇင်န်နှင့် ကျောင်းဆရာ စသည်တို့အား တင်ကြို၍ ပေးထားပြီးငွေကို သေဆုံးသည်ဖြစ်စေ၊ အလုပ်မှ နုတ်ထွက်လိုက်သည်ဖြစ်စေ၊ အလုပ်မှ အထုတ်ခံရသည်ဖြစ်စေ ၎င်းတို့က တင်ကြို၍ ယူထားကြသည့် ပိုငွေများကို ပြန်လည်၍ တောင်းယူရန်မလို။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၅၇၈)

၆၉။ ဝကပ်(ဖ်)မှ လစာယူသော ပုဂ္ဂိုလ်များသည် စီးပွားဖြစ်သဘော မပိုက်ကြဘဲ ဆောင်ရွက်ကြရန် သင့်လျော်လှပေသည်။

၇၀။ ဗလီဆရာများ လစာ ယူသင့်၊ မယူသင့်နှင့် စပ်လျဉ်း၍ အကွဲအလွဲ ပြဿနာရှိသည့်အတွက် ၎င်းပြဿနာမှ လွတ်ကင်းရန် ဗလီဆရာသည် ဗလီ၏ ဝေယျာဝစ္စတွင် တံမြက်လှည်းသည်အထိ လုပ်ဆောင်ပေးပါက ဗလီပိုင်ငွေဖြင့် ထောက်ပံ့ ခန့်ရာတွင် ကွဲလွဲမှုမရှိနိုင်စေသော ကိစ္စတစ်ရပ် ဖြစ်လာဖွယ် အကြောင်းတစ်ရပ် ဖြစ်လေသည်။

၇၁။ ဝကပ်(ဖ်) ပြုလုပ် စွန့်လွှတ်လှူဒါန်းသော ပစ္စည်းကို အလှူရှင်က လုံးဝမပိုင်တော့ဘဲ အရှင်မြတ်ပိုင်သာ ဖြစ်မြောက်သွားတော့၏။ စွန့်လွှတ် လှူဒါန်းသော အချိန်မှစပြီး ထိုဝကပ်(ဖ်) ပစ္စည်းကို မည်သူတစ်ဦးတစ်ယောက်မှ ရောင်းပိုင်၊ ပေါင်ပိုင်၊ လေလံတင်ပိုင်ခွင့် မရှိသည့်ပြင် ထိုပစ္စည်းသည် အလှူရှင်၏ သား၊ မြေး အမွေဆက်ခံသူတို့အတွက်လည်း အမွေပစ္စည်းဖြစ်ခြင်းမှ ကင်းလွတ်သည့် ပစ္စည်းတစ်ရပ် ဖြစ်သွားသည်။

၇၂။ ဝကပ်(ဖ်) ပြုလုပ် စွန့်လွှတ် လှူဒါန်းသူက လှူဒါန်းသော အိမ်၊ မြေ စသည်တို့မှ ရသည့် အခကြေးငွေများကို မိမိအတွက် သို့မဟုတ် အမွေဆိုင် မည်သူမည်ဝါတို့အတွက် မည်၍မည်မျှ ပေးကမ်း သုံးနိုင်ခွင့်ကို စာချုပ်စာတမ်းတွင် ရေးသား၊ ပြောဆို၊ မှာထားခြင်း ရှိပါက သုံးစွဲရမည်။ အကယ်၍ ရေးသား၊ ပြောဆို၊ မှာထားခြင်းမရှိပါက ဝကပ်(ဖ်)ပစ္စည်းမှရသည့် အခကြေးငွေများနှင့် တိုက်၊ အိမ်၊ မြေယာ စသည်တို့ကို အလှူရှင်နှင့် အမွေဆက်ခံပိုင်သူတို့ပါ အမွေကိစ္စ အရပ်ရပ်တို့မှ လုံးဝ ကင်းလွတ်သွားကြလေသည်။

၇၃။ အာမဒ္ဒနီ ငွေ သုံးစွဲရာ၌ ရှေးနှောင်းသဘောပိုက်ပြီး စီစဉ် ထားသည့် စီစဉ်ချက်များမှ ရသည့်ငွေကို ပထမ ဝကပ်(ဖ်) အဆောက် အဦး၌ သုံးစွဲရမည်။ ထို့နောက် သက်ဆိုင်ရာဖြစ်သော ဗလီဆရာ ရှေ့ဆောင်နှင့် အစ္စလာမ် သာသနာရေး စာပြဆရာ၊ ထို့နောက် မီးထွန်းညှိသူ၊ ထို့နောက် အခင်းအကျင်း တာဝန်ရှင်၊ ထို့နောက် မိုအဇ္ဇင်န်၊ ထို့နောက် ပစ္စည်းထိန်း စသည်တို့အား လုံလောက်အောင် ထောက်ပံ့ ရာ၌ သုံးစွဲရမည်။ လုံလောက်အောင်ဆိုသည့် အလိုမှာ- စားအိုးကြီး လျှင် ကြီးသလို၊ ငယ်လျှင် ငယ်သလို ဟူ၏။ ငွေ-၁၀၀၊ ၁၅၀ စသည် ဖြင့် အကန့်အသတ်မပြုရ၊ ထို့နောက် ဆီ၊ မီး၊ ဖျာ၊ ဝိုဇူရေ၊ ဝိုဇူကရား၊ ဝိုဇူအိုး၊ သောက်ရေ စသည်တို့အတွက် သုံးစွဲရန်မှာ မိုသဝလ္လီများ၏ ဝတ္တရားများဖြစ်သည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၅၇၂)။

၇၄။ ဗလီမှ ပိုနေသည့် အသား၊ အုတ်၊ သွတ် အတိုအစများ၊ ဆီမီးခွက်၊ ဖယောင်းတိုင် စသည်တို့ကို ဆရာ၊ မိုအဇ္ဇင်နှ်မှစ၍ အခြား သောသူများပါ မသုံးပိုင်။

၇၅။ မိုသဝလ္လီ တစ်ဦးတစ်ယောက်က ဖြစ်စေ၊ သို့မဟုတ် အများကဖြစ်စေ ဝကပ်(ဖ်) ကိစ္စအတွက် ပန်းရံ၊ လက်သမား၊ ကူလီ ငှားရမ်းသည့် ကိစ္စတွင် အခကြေးငွေနှင့် ပတ်သက်၍ ကာလတန်ဖိုး ထက် တစ်ပြားတစ်ချပ် ပိုမိုပေးငှားလျှင် ထိုအခကြေးငွေအားလုံးကို မိုသဝလ္လီ၏ ငွေကြေးမှ ထုတ်ပေးရမည်။ အလုပ်သမားတစ်ယောက် တစ်နေ့လျှင် တစ်ကျပ်ပေးငှားရမည့်အစား မိုသဝလ္လီက ငါးမတ်ပေးပြီး ငှားလျှင် ထိုအခကြေးငွေကို ဝကပ်(ဖ်)ငွေများမှ မပေးရဘဲ မိုသဝလ္လီ ပိုင်ငွေများမှ ငါးမတ်လုံး ပေးရမည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၅၇၃)။

၇၆။ ဝကပ်(ဖ်)ပစ္စည်းများဖြစ်သည့် အသား၊ အုတ်၊ အခင်း၊ ကြေးအိုး၊ ထမ်းစင်၊ ပိုဖူအိုး၊ မီးအိမ်၊ ဖျာ စသည်တို့ကို ကောင်းစွာ မထိန်းသိမ်းဘဲ အပေါ့တစ်စား လျစ်လျူရှုသည့်အတွက် ချွတ်ယွင်း ပျက်စီးသွားပါလျှင် ထိုက်တန်သည့် ကြေးငွေများကို ဝကပ်(ဖ်)ငွေမှ မဟုတ်ဘဲ မိုသဝလ္လီပိုင်ငွေမှ ပေးလျော်ရမည်။

ဂါယသွလ်အောင်သွားရ်ကျမ်း။

၇၇။ ဝကပ်(ဖ်) ပစ္စည်းများကို မည်သို့ပင် ကောင်းမွန်စွာ ထိန်းသိမ်းထားစေကာမူ ပျက်စီး၊ ယိုယွင်း၊ နစ်နာဆုံးရှုံးမည်မှာ အမှန် ပင် ဖြစ်နေလျှင် ထိုပစ္စည်းများကို ရောင်းချပြီး ရသည့်ကြေးငွေများကို

လိုအပ်သည့် အချိန်၊ လိုအပ်သည့်နေရာမှာ သုံးစွဲနိုင်ရန် သိမ်းထားရမည်။

ဂါယသွလ်အောင်သွားရ်ကျမ်း။

၇၈။ မပြင်ဖြစ်သော ဝကပ်(ဖ်)အဆောက်အဦး ရှိနေပါလျက် ဝကပ်(ဖ်)မှ ရငွေများကို အကျိုး ခံစားထိုက်သူတို့အား ပေးလိုက်မိပါလျှင် ထိုအဆောက်အဦး ပြင်ဆင်ရန်အတွက် မိုသဝလ္လီသည် မိမိပိုင်ငွေမှ ပြင်ဆင်ရန် ၎င်းအပေါ်တွင် တာဝန်ရှိလေသည်။

၇၉။ ဝကပ်(ဖ်) အဆောက်အဦး ပြိုပျက်သွားပါက ၎င်းပစ္စည်းများကို ပြန်လည် ဆောက်လုပ်ရာတွင် ထည့်သွင်း သုံးစွဲရမည်။ အကယ်၍ ပြန်လည် မဆောက်လုပ်သေးလျှင် ၎င်းပစ္စည်းများကို သိမ်းဆည်းထားရမည်။ သိမ်းဆည်းထားရာတွင် ပျက်စီး၊ နစ်နာမည်ကို စိုးရိမ်မကင်းဖြစ်နေလျှင် ထိုပစ္စည်းများကို ရောင်းချပြီး ရရှိထားသည့် ငွေများကို လုံခြုံစွာ ထိန်းသိမ်းထားရမည်။

၈၀။ ဗလီဦ မီးအလင်းမထွန်းပိုင်။ နေကွယ်ပျောက်သည့်အချိန်မှ ညဦးသုံးယံ တစ်ယံသာ ထွန်းပိုင်လေသည်။

၈၁။ ဝကပ်(ဖ်) အဆောက်အဦးပျက်၍ သိမ်းဆည်းထားသော ပစ္စည်းဖြစ်စေ၊ ထုခွဲ၍ ရောင်းထားသော ငွေကိုဖြစ်စေ ဝကပ်(ဖ်) အာမဒ္ဒနီငွေ ယူထိုက်၊ စားထိုက်သူများအား မပေးထိုက်၊ ၎င်းတို့သည် အဆောက်အဦးများကို အငှားချထား၍ ငှားရမ်းခများမှသာ စားသုံးထိုက်သူများ ဖြစ်သဖြင့် မူလ အဆောက်အဦးနှင့် ပတ်သက်သည့် ပစ္စည်းများမှ အကျိုးမခံစားထိုက်။

၈၂။ ဝကပ်(ဖ်) တိုက်၊ အိမ်၊ မြေ၌ အခွင့်မဲ့နေသည်ဖြစ်စေ၊ မိုသဝလ္လီများက အခမဲ့ထားသည်ဖြစ်စေ၊ ငှားရမ်းခ လျှော့ပေါ့၍ ထားသည်ဖြစ်စေ နေသူသည် ကာလတန်ဖိုး အခကြေးငွေကို ပေးဆောင်ရမည်။ ငှားရမ်းခ လျှော့ငွေကို မပေးဆောင်လျှင် မိုသဝလ္လီက ကိုယ်ပိုင်ငွေမှ လျှော့ငွေများ ပေးဆောင်ရမည်။ အခမဲ့ထားလျှင်လည်း မိုသဝလ္လီက ကာလတန်ဖိုး အခကြေးငွေကို ပြည့်မှီအောင် ပေးရမည်။ ၎င်း အခွင့်မဲ့ နေသူအားလည်း သက်ဆိုင်ရာမှ ထိရောက်စွာ အရေးယူရမည်။ အရေးယူပါလျက် မရခဲ့သော် ... စိုက်လျော်ရန် မိုသဝလ္လီအပေါ်မှာ တာဝန်မရှိ။

၈၃။ ဗလီ၌ ထွန်းညှိသော မီးများသည် သရာဝီဟ် နမားဇ်အတွက်၊ ၎င်းတရားပွဲများအတွက် လိုသည်ထက် ပိုမို၍ ထွန်းညှိခြင်း မပိုင်။

ဂါယသွလ်အောင်သွားရ်ကျမ်း (စာမျက်နှာ-၉၃)။

၈၄။ ဗလီအတွက် ရည်စူးချက် သက်သက်ဖြင့် ဝကပ်(ဖ်) လှူဒါန်းထားသည့် ပစ္စည်းများကို အလှူရှင်မစ၍ မည်သူတစ်ဦးတစ်ယောက်မျှ မိမိတို့အိမ်၌ သို့မဟုတ် အခြားသော နေရာများတွင် မယူဆောင်ရ၊ မသုံးစွဲရ။

ဂါယသွလ်အောင်သွားရ်ကျမ်း။

၈၅။ ဝကပ်(ဖ်) ပစ္စည်းများကို လှူဒါန်းသည့် အလှူရှင်၏ ရည်မှန်းချက်အတိုင်း မိုသဝလ္လီများက သက်ဆိုင်ရာ နေရာများတွင် သုံးစွဲသွားရမည်။ လှူဒါန်းသူ အလှူရှင်ကိုယ်တိုင် သို့မဟုတ် မိုသဝလ္လီ

များနှင့် အရပ်သားများပါ ဗလီ၌သော်လည်းကောင်း၊ မိမိတို့ တိုက်၊ အိမ်၊ စသည်တို့၌သော်လည်းကောင်း မူလအလှူရှင်က အခွင့်ပြုခဲ့လျှင် ယူ၍ သုံးနိုင်လေသည်။ ဝကပ်(ဖ်) ပစ္စည်းများကို အခနှင့်ဖြစ်စေ၊ အခမဲ့ ဖြစ်စေ အလှူရှင်၏ မူလရည်ရွယ်ချက်အတိုင်း ယူဆောင် သုံးစွဲနိုင်လေ သည်။

ဂါယသွလ်အောင်သွားရ်ကျမ်း။

၈၆။ ဝကပ်(ဖ်) ပစ္စည်းဖြစ်သော တိုက်၊ အိမ်၊ မြေယာ ထို့ပြင် ကုလားထိုင်၊ ကော်ဇော၊ ဖျာ၊ ကြေးအိုး၊ ပန်းကန်၊ ခွက်ယောက်၊ ဓါတ်မီး မှ စ၍ ကာလတန်ဖိုးထက် ငှားရမ်းသူက တောင်းပန်၍ဖြစ်စေ၊ အားနာ ၍ ဖြစ်စေ မိုသဝလ္လီ၏သဘောနှင့် လျှော့သည်ဖြစ်စေ၊ ကာလတန်ဖိုး အပြည့်မရလျှင် မိုသဝလ္လီက ပေးလျော်ရမည်။ လျှော့နိုင်ခွင့်မရှိ။

၈၇။ ရှိအာဟ်၊ ဟင်ဒူ၊ နစ္စရာနီ စသော ကာဖိရ်များက တည်ဆောက်ထားသော ဗလီ၌ နမားဇ်ဖတ်ပိုင်သည်မှာ မွတ်စ်လင်မ် များ တည်ဆောက်ထားသည့် ဗလီနှင့် ခြားနားချက်မရှိ၊ တူညီစွာ ကုသိုလ်ရလေသည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (စာမျက်နှာ-၅၂၆)။

၈၈။ မွတ်စ်လင်မ်များ ဗလီတည်ဆောက်ရာတွင် ကာဖိရ်များ က မိမိတို့စေတနာနှင့် ပေးလှူသည့် ငွေများကို ဗလီတွင် သုံးစွဲပိုင်လေ သည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (စာမျက်နှာ-၅၄၅)။

၈၉။ ဗလီ၏ ဝေယျာဝစ္စ အသုံးစရိတ်အတွက် ကောက်ခံ ရရှိထားသည့်ငွေများနှင့် အခြားသော မြေယာဖြစ်စေ၊ အဆောက်အဦး တစ်ခုခုကို ဖြစ်စေ ဗလီအတွက် ဝယ်လိုလျှင် အလှူရှင်များ၏ အခွင့်နှင့် ဝယ်ပိုင်သည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (စာမျက်နှာ-၅၄၅)။

၉၀။ ဗလီတစ်လုံးအတွက် ကောက်ခံ ရရှိထားသော ငွေကို ၎င်းဗလီမှအပ အခြားသော ဗလီတစ်ခုအတွက် သုံးစွဲလိုလျှင် အလှူရှင် တို့၏ အခွင့်နှင့် သုံးစွဲပိုင်ခွင့် ရှိလေသည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (စာမျက်နှာ-၅၄၅)။

၉၁။ နမာဇီများ စားသုံးရန် ရည်စူး၍ စိုက်ပျိုးထားသည့် အပင်မှ အသီးများကို စားသုံးပိုင်ခွင့်ရှိသည်။ ထိုကဲ့သို့ မဟုတ်ပါလျှင် စားသုံး ခွင့် မရှိဖြစ်လေသည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (စာမျက်နှာ-၅၄၀)။

၉၂။ ဝကပ်(ဖ်)ပြုထားသည့် တိုက်၊ အိမ်များကို ငှားရမ်းနေထိုင် သူသည် တိုက် သို့မဟုတ် အိမ်အတွင်းမှာ ပေါက်ရောက်သော အပင် များမှ အသီးများကို စားသုံးပိုင်ခွင့် ရှိလေသည်။

၉၃။ ဝကပ်(ဖ်) ပစ္စည်းဖြစ်သော တစ်စုံတစ်ရာ အသားတိုင် အတိုအစ၊ အခင်းကော်ဇော၊ စာအုပ်၊ စာရွက်စာတမ်း စသည်များကို လျစ်လျူရှုပြီး အထိန်းအသိမ်း ပေါ့မှုကြောင့် ပျက်စီး ယိုယွင်းသွား ပါလျှင် မိုသဝလ္လီက လျော်ရမည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (စာမျက်နှာ-၅၈၈)။

၉၄။ ဗလီ၌ သုံးစွဲနေသည့် အရပ်ရပ် ရွှေ့ပြောင်းနိုင်သော ပစ္စည်း အပိုအလျှံများကို ဗလီအတွက် ရောင်းပိုင်၍ ရောင်းရငွေကို ဗလီတွင် သုံးပိုင်သည်။

ဖသာဝါ ရရှီဒီယာဟ် (ပထမတွဲနှင့် ဒုတိယတွဲ)။

၉၅။ ဗလီပြုပြင်ရန် ကောက်ခံရရှိထားသော အလှူငွေပိုများ ရှိနေလျှင် အလှူရှင်တို့၏ အခွင့်နှင့် ဗလီဆရာ၊ မိုအဇ္ဇင်န်တို့ကို လခ ပေးပိုင်၏။ ဗလီအတွက် နာရီ စသည်များ ဝယ်ပိုင်၏။

၉၆။ မပျက်စီးသေးသော လက်ရှိဗလီကို မူလထက် ပိုမို ကောင်းမွန်အောင် ဆောက်လုပ်လိုက ထိုဗလီဝင် ဂျမာအသ်သားများ အနက်မှ တစ်ဦးတစ်ယောက်ကဖြစ်စေ၊ ဂျမာအသ်သားများကစုပေါင်း၍ ဖြစ်စေ ဖျက်ဆောက်ပိုင်ခွင့် ရှိလေသည်။ သို့သော် ... တစ်ဦးတည်း ဆောက်လုပ်လိုက ဂျမာအသ်သားများ၏ သဘောတူ ခွင့်ပြုချက် ပါရမည်။ အခြား ပြင်ပလူဖြစ်မူ ဖျက်ဆောက်ခွင့် မပြုရ။ သို့သော် ဗာနီ မူလ ဝါကစ်ဖ်ရှိလျှင် ၎င်းထံ အခွင့်ယူရမည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (စာမျက်နှာ- ၅၆၉)။

၉၇။ အလွန်ပြည့်ဝသည့် တရားတော်မြတ်၏ စည်းကမ်းများ မပျက်ကွက်ရ။ စနစ်သစ်သို့ ပြောင်းလွဲခြင်းလည်း မပြုလုပ်ရ။ အကြီး ဆုံး အခွင့်အရေးမှာ အာလင်မ်များနှင့် ပူးပေါင်း၊ ညှိနှိုင်း ဆောင်ရွက် ဖြေရှင်းရေးသာ ဖြစ်သည်။ ထိုအာလင်မ်များမှာလည်း တရားတော်၏ အမိန့်နှင့် ကိုက်ညီစွာ တိတိကျကျ ဖန်တီးနိုင်ခွင့်သာ ရှိကြလေသည်။

၉၈။ လက်ရှိဗလီတွင် နမာဇီများ ကောင်းမွန်ချောင်ချိစွာ ဆန့်ပါလျက် ရှိနေသေးလျှင် နောက်ထပ် ဗလီတစ်လုံး အသစ်တိုးပြီး ဆောက်လုပ်မည့်အစား ထိုဗလီအသစ်အတွက် ကုန်ကျမည့်ငွေများကို လက်ရှိဗလီတွင် ပြုပြင်ရန် လိုအပ်နေပါလျှင် ပြင်ဆင်ရာတွင် သုံးစွဲခြင်းက သာပို၍ မွန်မြတ်ပါသည်။ ပြင်ဆင်ရန် မလိုအပ်ခဲ့လျှင် ထိုကြေးငွေများကို ဘာသာရေးသက်သက် သင်ကြားသော ကျောင်းတွင်ဖြစ်စေ၊ ရေတွင်းအတွက်ဖြစ်စေ၊ သာသနာရေးအတွက် စာပေပုံနှိပ်ဖြန့်ဖြူးခြင်းကိစ္စ၌ဖြစ်စေ၊ ထိုဗလီတည်ဆောက်မည့် ငွေများကို သုံးစွဲခြင်းက ပိုမို၍ ကုသိုလ်အကျိုးရှိမည်။

နစာအီကျမ်း (ပထမတွဲ၊ စာမျက်နှာ-၁၇၉)။

၉၉။ မြို့ပျက်၊ ရွာပျက်များတွင် ဗလီအိုများ ရှဟီးဒ်ဖြစ်ပြီး ပြိုကျပျက်စီးပြီး နောက်ထပ် မပြင်နိုင်လျှင် ပျောက်ပျက်သွားမည့် ပစ္စည်းများနှင့် ဗလီအိုမှ ပစ္စည်းအကျန်များ စသည်တို့ကို ထိုဗလီနှင့် အနီးကပ်ဆုံးဗလီတွင် သုံးပိုင်ခွင့်ရှိသည်။ ထိုနည်းတူ တံတားအိုမှ ကျန်ရစ်ခဲ့သော ပစ္စည်းများကို ထိုတံတားအိုနှင့် အနီးကပ်ဆုံး တံတား၌ သုံးစွဲခွင့်ရှိသည်။ အထက်ကနည်းတူ ကျောင်းအို၊ ကျောက်ပျက်မှ ကြွင်းကျန်ရစ်သည့် ပစ္စည်းများကို ထိုကျောင်းအိုနှင့် အနီးကပ်ဆုံးကျောင်း၌ သုံးစွဲပိုင်ခွင့်ရှိသည်။ ၎င်းနည်းများ အလားတူပင် ရေတွင်းပျက်မှ ကျန်ရစ်သည့် ပစ္စည်းများကို ထိုရေတွင်းပျက်နှင့် အနီးကပ်ဆုံး ရေတွင်း၌ သုံးစွဲပိုင်ခွင့်ရှိသည်။

၁၀၀။ ဗလီပိုင်ဖြစ်သော တိုက် သို့မဟုတ် အိမ်၌ ငှားရမ်းနေထိုင်သူသည် အရက်ကို ရောင်းဝယ်သူဖြစ်နေလျှင် သို့မဟုတ် အရက်ဆိုင် ဖွင့်လှစ်ထားလျှင် ထိုအရက်ရောင်းသူအား တိုက်၊ အိမ်များကို အခကြေးငွေနှင့် ငှားရမ်းပိုင်ခွင့်ရှိသည်။ သို့သော် ဤအဆို၌ အခွင့်ရသော်လည်း သက်ဝါ အရ ရှောင်လျှင် ကောင်းပါသည်။

၁၀၁။ အရှင်မြတ် အတွက်နှင့် သာသနာ၏ ကုသိုလ်ရေး အတွက် သက်သက်ဖြစ်စေ၊ ကုသိုလ်ရေးနှင့်တွဲဖက်၍ အဆက်အနွယ် သားသမီးများကိုပါ ပူးတွဲထားသည့် အမျိုးအစားဖြစ်စေ၊ ဤဖော်ပြခဲ့သည့် နှစ်မျိုးမှအပ အဆက်အနွယ် သက်သက်အတွက် ဝကပ်(ဖ်) ပြုလုပ်လျှင် မပိုင်။

၁၀၂။ ဝကပ်(ဖ်)နှင့် ပတ်သတ်ပြီး ဝကပ်(ဖ်)ပစ္စည်းတို့မှ ပေါ်ထွက်လာသည့် အပိုကြေးငွေများကို ထိုက်တန်သူအား ဝေရာ၌ တရားတော်သဘောအရ ကျားနှင့်မ ခြားနားခြင်းမရှိဘဲ ဂုဏ်ရည် တန်းတူထား၍ ဝေစုကို ယူရာ၌သော်လည်းကောင်း၊ အခြားအကျိုး ခံစားရာ၌သော်လည်းကောင်း ကျားနှင့်မ ခြားနားခွင့်မရှိ အညီအမျှ အခွင့်အရေး ရှိကြသည်။

၁၀၃။ ဝကပ်(ဖ်)တိုက်၊ အိမ်နှင့်မြေ စသည်တို့ကို ဝါကစ်ဖ်၏ အမွေအစားတို့သည် ခွဲဝေခြင်း လုပ်ပိုင်ခွင့်မရှိ။ သို့ရာတွင် ဝါကစ်ဖ်၏ အခွင့်နှင့် တိုက်၊ အိမ်၊ မြေ စသည်တို့မှ ထွက်ပေါ်လာသည့် အခငွေနှင့် အပိုငွေတို့ကိုသာလျှင် ခွဲဝေပိုင်ခွင့်ရှိလေသည်။

၁၀၄။ ဝါကစ်ဖ်က သားမြေးအတွက်နှင့် အခြားကုသိုလ်ရေးပါ ပူးတွဲ၍ လုပ်ထားပါလျှင် ထိုဝကပ်(ဖ်)တို့မှ ရသည့် အခကြေးငွေ အပို နှင့် ထိုဝကပ်(ဖ်) ပစ္စည်းများသည် နှစ်ပရိစ္ဆေဒ ကြာရှည်သောကြောင့် ပျက်စီး ယိုယွင်းသည်ဖြစ်စေ မီးလောင်ကျွမ်းသားသည်ဖြစ်စေ၊ ရေတိုး ၍ ပြိုပျက်သွားသည်ဖြစ်စေ အဆိုပါ အချက်များကြောင့် ပျက်စီး ယိုယွင်းသွားလျှင် ပြန်လည်ပြင်ဆင်ရန် စည်းကမ်းချက် တစ်စုံတစ်ရာ ရေးသားပါရှိခြင်း၊ မရှိသြားသော်လည်း ထိုအဆောက်အဦးကို ဦးစွာ ပြုပြင်ရမည်။ ဝါကစ်ဖ်၏ သားမြေးတို့က တတ်ကုန်နိုင်လျက် မပြုပြင် သည်ဖြစ်စေ၊ မရှိနွမ်းပါးသဖြင့် မပြုပြင်နိုင်သည်ဖြစ်စေ ပြန်လည် မပြင်ဆင်လျှင် အကယ်၍ လက်ရှိအစိုးရက လိုအပ်သည့်ငွေကို ထုတ်ပေးလျှင် ထိုငွေကို ပြန်လည် အပြည့်အစုံရသည်တိုင်အောင် အငှားချထား၍ အခကြေးငွေများ သိမ်းယူကာ ထိုငွေများကို ပြေလည် အောင် ပေးဆပ်ပြီးမှသာလျှင် မူလအတိုင်း ဝါကစ်(ဖ်)၏ သား၊ မြေးများက တဖန်ပြန်လည် အခွင့်အရေး ရထိုက်ကြရမည်။

၁၀၅။ မိန်းမတစ်ဦးက သူမပိုင် တိုက်၊ အိမ်နှင့်မြေ စသည်တို့ကို စွန့်လွှတ်လှူဒါန်းပြီး အကယ်၍ ကိုယ်တိုင်အုပ်ထိန်းခြင်း ပြုလိုလျှင် ပြုလုပ်ပိုင်ခွင့်ရှိသည်။ အလုပ်ထိန်းသူ လစ်လပ်နေသည့်နေရာတွင် ယောကျ်ားများနှင့်မခြား မိန်းမများကိုလည်း အုပ်ထိန်းသူမအဖြစ် ခန့်ထားခွင့်ရှိသည်။

၁၀၆။ အလှူရှင်က စွန့်လွှတ်ကြောင်း ဝန်ခံပါလျက် အလှူရှင် အမွေဆိုင်များက လှူသည် မထင်မှတ်သော်လည်း ဝကပ်(ဖ်)ပိုင်သည်။ ၎င်းအမွေဆိုင်များမှ တရားစွဲယူပိုင်ခွင့်မရှိ။

၁၀၇။ ဝင်ငွေနှင့် ကောက်ခံရရှိသည့်ငွေများ၏ စာရင်းများကို ထည့်သွင်းရေးမှတ်ထားရာ၌ ပါဝင်သက်ဆိုင်သည့် ဖြတ်ပိုင်းများ ရရှိမည့်အပြင် တံဆိပ်တော်ခေါင်း ကပ်သင့်သည့် ဖြတ်ပိုင်းစာရွက်စာတမ်းများ အပေါ်မှာလည်း တံဆိပ်ခေါင်း ကပ်ထားရန်သင့်သည်။

၁၀၈။ ယာယီအလုပ်သမားများကို အမြဲတမ်း နေရာများ၌ ခန့်ထားနိုင်သည်။ ယာယီနေရာများတွင်လည်း ယာယီအလုပ်သမားများအား အမြဲတမ်းအဖြစ် ခန့်ထားနိုင်လေသည်။

၁၀၉။ ဗလီဆရာ၊ မိုအဇ္ဇင်နှင့် ကျောင်းဆရာ စသည်တို့ကို လူနေမှု အဆင့်အတန်းမှီသည့်နေအိမ်များ ဆောက်လုပ်ပေးရန်နှင့် အိမ်ခန်းများ၌ အခမဲ့နေထိုင်ခွင့် ပြုပိုင်သည်။

၁၁၀။ ကြွေးရှင်က ဝါကစ်ဖ်အပေါ် ဝကပ်(ဖ်)၏ ပစ္စည်းကို တရားစွဲ၍ သိမ်းပိုင်ခွင့်မရှိ။ ၎င်းဝါကစ်ဖ်ကိုယ်တိုင်က သဘောတူသော်ငြားလည်း တရားနိုင်သော တရားလိုက ဝကပ်(ဖ်)ပြုပြီး အဆောက်အဦးကို သိမ်းပိုင်ခွင့်မရှိသည့်ပြင် ထိုသဘောတူသော ဝါကစ်ဖ်မှာ ရာထူးမှ ကျသွားရခြင်းသာ အဖတ်တင်ရုံ ရှိပေသည်။

၁၁၁။ ဝါကစ်ဖ်သည် ဝကပ်(ဖ်)ပစ္စည်းနှင့် ကင်းလွတ်သွားပုံမှာ ဝါကစ်ဖ် မဟုတ်သော အခြားလမ်းသွားတစ်ဦးက ထိုဝကပ်(ဖ်)

အဆောက်အဦးကို သူပိုင်ပစ္စည်းဟု စိတ်မကူးဝံ့သည့်ပမာ ဖြစ်လေသည်။

၁၁၂။ ဝကပ်(ဖ်)ပြုထားသော မြေ၊ အဆောက်အဦးကို တစ်ဦးတစ်ယောက်က အဓမ္မ သိမ်းပိုက်ယူငင်ထားရာမှာ တစ်နည်းနည်းဖြင့် မြေသော်လည်းကောင်း၊ အဆောက်အဦးကိုသော်လည်းကောင်း ပြန်ရလျှင် ဝကပ်(ဖ်)ပိုင်အဖြစ်သို့ ပြန်လည်၍ထားရမည်။ သို့တည်းမဟုတ် ၎င်းမြေနှင့် အဆောက်အဦး၏ အဖိုး ပြန်ရလျှင်လည်း မူလ ဝကပ်(ဖ်) အဖြစ်သို့ ပြန်၍ အစားထိုးရန် ရသောအဖိုးနှင့် ဝယ်ယူရန်ထိုက်၏။

မူလ ဝါကစ်ဖ်က စာချုပ်စာတမ်း၌ ပြောင်းလဲ အစားထိုးနိုင်သည်ဟု အခွင့်ပြုခဲ့လျှင် ပြောင်းလဲခြင်း၊ အစားထိုးခြင်း ပြုပိုင်သည်။ အကယ်၍ အစိုးရကဖြစ်စေ၊ အဏာရှိသူ တစ်ဦးတစ်ယောက်က ဖြစ်စေ အဓမ္မ မပြောင်းမလွဲဘဲ မနေရအောင် ပြုသည်ဖြစ်စေ ပြုလုပ်သည့်အခါမှာလည်း အုပ်ထိန်းသူ လူကြီးများက ပြောင်းလွဲအစားထိုးပိုင်ခွင့်ရှိသည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ- ၅၇၆)။

၁၁၃။ အလှူရှင်ကိုယ်တိုင် ကိုယ်ကျိုးအတွက် သုံးစွဲရန် ဝကပ်(ဖ်)ပစ္စည်းကို ရောင်းမသုံးလျှင် မဖြစ်သည့် အခြေသို့ရောက်ရှိနေသည့်အပြင် စာချုပ်စာတမ်းတွင် ရောင်းပိုင်ခွင့် ရေးသားပါရှိထားသော်လည်း မရောင်းနိုင်၊ မရောင်းပိုင်။

၁၁၄။ ဝကပ်(ဖ်) ပစ္စည်းကို လဲလှယ်ပိုင်ခွင့် မရှိ။ သို့သော် အောက်တွင် ဖော်ပြသည့် စည်းကမ်းချက်များအတိုင်း ဖြစ်မူ လဲလှယ်ပိုင်ခွင့်ရှိပေသည်။

(က) အလှူရှင်က လဲလှယ်ခွင့် ရေးသားထားခဲ့လျှင် လဲလှယ်နိုင်သည်။

(ခ) ဝကပ်(ဖ်)ပစ္စည်းကို လက်ရောက် အုပ်ချုပ်မှုနှင့် လက်ရှိမဖြစ်နိုင်တော့သည့် အခက်အခဲနှင့် ကြုံတွေ့နေသည့် အမျိုးအစားဖြစ်လျှင် လဲလှယ်နိုင်သည်။

(ဂ) တစ်ဦးတစ်ယောက်က ဝကပ်(ဖ်)ပစ္စည်းကို အဓမ္မ ပျက်စီးယိုယွင်းအောင် ပြုလိုက်သည့်အတွက် လျော်ကြေးတောင်းဆိုရာမှာ ရသည့်လျော်ကြေးနှင့် အခြားမြေသော်လည်းကောင်း ဝယ် ပိုင်ခွင့်ရှိသည်။

၁၁၅။ ဝကပ်(ဖ်)မြေကို ရောင်းပြီး အခြားအလားတူ မြေဝယ်ရန် ခွင့်ပြုချက်များ ဝါကစ်ဖ်က ရေးသားခွင့် ရှိလေသည်။

၁၁၆။ ဝကပ်(ဖ်)မြေကို အခြားသော မြေနှင့် အလဲအပြောင်း လုပ်နိုင်ခွင့် စည်းကမ်းချက်ကို အလှူရှင် ဝါကစ်ဖ်က ရေးသားခဲ့လျှင် လွှဲပြောင်းခွင့်ရှိသည်။

၁၁၇။ ဝကပ်(ဖ်) အဆောက်အဦးများ ပြင်ရန်သော် လည်းကောင်း၊ အသစ်ဆောက်လုပ် အငှားချထားရန်သော်လည်းကောင်း စသည်ဖြင့် မရောင်းမဖြစ်သည့် အခြေသို့ရောက်လျှင် တစ်စိတ်

တစ်ဒေသကို ရောင်းပြီး ပြင်ဆင်ဆောက်လုပ်ခွင့်ရှိကြောင်း၊ အကယ်၍ နောက်ထပ်ဖြည့်နိုင်လျှင် ဖြည့်စွက်နိုင်သည်။

၁၁၈။ မိုသဝလ္လီများအနက် တစ်ဦးဦးက မိမိသဘောနှင့် အမိန့်ပေးခြင်း၊ စီမံခန့်ခွဲခြင်း မပြုရ။ မိုသဝလ္လီအများ၏ တရားတော်နှင့်ညီသည့် စည်းအဝေး ဆုံးဖြတ်ချက်ဖြင့်သာ သက်ဆိုင်ရာ အလုပ်တာဝန်ရှင်များကို အမိန့်ပေးခြင်းနှင့် စီမံခွင့်ရရှိသည့်ကိစ္စကိုသာ စီမံခန့်ခွဲနိုင်သည်။

၁၁၉။ ဝကပ်(ဖ်) အိမ်သက်သက်ကို အငှားချရာတွင် ၁-နှစ်ထက် အချိန်ကာလ ပိုမို၍ စာချုပ်စာတမ်းများ မချုပ်ဆိုရ။ ဝကပ်(ဖ်) မြေသက်သက်ကို ငှားရမ်းရာတွင် ၃-နှစ်ထက် အချိန်ကာလာ ပို၍ စာချုပ်စာတမ်းများ မချုပ်ဆိုရ။ နှစ်လ ကြာရှည်စွာ ဆက်လက်ငှားရမ်းမှသာ ဖြစ်မည်ဆိုလျှင် လက်ရှိစာချုပ်တွင် ရေးသား သတ်မှတ်ထားသည့် နှစ်ပိုင်း၊ လပိုင်း အချိန်စေ့ရောက် ကုန်ဆုံးသွားသောအခါ ဆက်၍ တဖန် စာချုပ်စာတမ်းများ ချုပ်ဆိုပြီး ငှားရမ်းနိုင်ခွင့်ရှိသည်။ အဓိပ္ပါယ်မှာ ... ၃-နှစ်တစ်ခါ ပြန်၍ စာချုပ်ပြုလုပ်ပါ။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၅၈၀)။

၁၂၀။ ဝကပ်(ဖ်)တိုက်၊ အိမ်များ အခိုက်အတန့် အားဖြင့် ငှားရမ်းခကြေးငွေများ၊ ဈေးနှုန်း လျှော့ပေါ့ ကျဆင်းသွားပါလျှင် ဈေးနှုန်း ကန့်သတ်ချုပ်ဆိုထားသည့် စာချုပ်တွင် ပါရှိသည့်အတိုင်း တိုက်၊ အိမ် ငှားများကို တောင်းခံရမည်။ လူကြီးများနှင့် အငှားယူသူ နှစ်ဦးနှစ်ဖက် သဘောတူ ဈေးနှုန်းငွေ ပိုမိုတိုးမြှင့်လာလျှင် မူလစာချုပ်

ပ,လပ်ပြီး အသစ်တဖန် စာချုပ် ချုပ်ဆိုရမည်။ အကယ်၍ ခေတ်ကာလ အလိုက် အလိုအလျောက် အိမ်ငှား၊ တိုက်ငှားခ ကြေးငွေများနှုန်း တိုးတက် မြင့်မားလာလျှင် နှစ်၊ လ စေ့သည့်အခါ မူလ လက်ရှိစာချုပ်ကို ဖျက်သိမ်း ပ,လပ်ပြီး အသစ်တဖန် ပြန်လည်၍ စာချုပ် စာတမ်းများ ချုပ်ဆိုရမည်။ အသစ် တဖန် စာချုပ်မချုပ်ဆိုမီ လက်ရှိစာချုပ်ပါ နှုန်းထားအတိုင်း တိုက်ခ၊ အိမ်ခများကို တောင်းခံယူရမည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှ-၅၈၁)။

၁၂၁။ ဝကပ်(ဖ်) တိုက်၊ အိမ်၊ မြေကို ငှား၍ ထွက်ပြေးတိမ်ရှောင်နေသူထံ ပါသွားသော အခကြေးငွေများကို အုပ်ထိန်းသူလူကြီးများ၏ ကိုယ်ပိုင်ငွေမှ စိုက်ထုတ်ပြီး ပေးလျော်ရန် တစ်စုံတစ်ရာ တာဝန်မရှိပေ။

ဂါယသွလ်အောင်သွားရ်ကျမ်း။

၁၂၂။ ဗလီလူကြီးများက ပစ္စည်းတစ်စုံတစ်ခု၏ ကာလတန်ဖိုးငွေ ၁၀-ကျပ်တန်သည်ကို ၁၁-ကျပ်ဖြင့် ပေါ့လျော့မှုဖြင့် ဝယ်ယူလျှင် ၎င်းဗလီလူကြီးပိုင်ငွေမှ အစွန်းငွေပို ၁-ကျပ်ကို ပေါ့လျော့မှုအတွက် စိုက်ထုတ် ပေးလျော်ရမည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှ-၅၈၈)။

၁၂၃။ မည်သည့် မိုသဝလ္လီမဆို ခရီးမလွန် စာလည်းမတင်ဘဲ အစည်းအဝေးသို့ တက်ရောက်ရန် အကြောင်း ကြားပါလျက်နှင့် ၃-ကြိမ်တိုင်တိုင် ဆက်ပြီး အစည်းအဝေးသို့ မတက်ရောက်လျှင် ပယ်ချရမည်။

၁၂၄။ ဝကပ်(ဖ်)အတွက် သုံးစွဲရန်ငွေ ၂၀၀-ကျပ်ထက် ပိုသော ငွေများကို လုံခြုံမှုရှိစေရန် အစိုးရငွေတိုက်သို့ သွင်းထားလိုလျှင် ထားနိုင်ပါသည်။ ၎င်းငွေအပ်သည့်အတွက် ရသည့်အပိုငွေကို ဟာနဖီ (رَحِمَهُ ٱللَّٰهُ) သခင်ထံ ပိုင်သည်။[1]

၁၂၅။ မူလ ဗလီတကာမှာ ဗလီတကာခန့်ထိုက်သော သားနှစ်ယောက်ရှိခဲ့လျှင် သားအကြီးကို တင်မြှောက်ရမည်။ သို့ရာတွင် နှစ်ယောက်အနက် တစ်ယောက်က ဉာဏ်ပညာသာ၍ ဝကပ်(ဖ်) ပစ္စည်း၏ အကျိုးရှိရာရှိကြောင်း ဆောင်ရွက်နိုင်လျှင် သို့ ဆောင်ရွက်နိုင်သော ဉာဏ်ပညာရှိသူကိုသာလျှင် ခန့်ပါက ဝကပ်(ဖ်)မှာ အကျိုးထူးပေးအံ့။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နာ-၅၉၂)။

၁၂၆။ မြေငှားနေသူသည် ထိုမြေပေါ်တွင် မိမိဆောက်လုပ်ထားသည့် အိမ် အဆောက်အဦးကို အခြားနေရာသို့ ရွှေ့ပြောင်းသွားလိုပါလျှင် ၎င်းမြေယာအခ ပိုမို ရရှိမည်ဆိုပါက အရွှေ့ခိုင်းရမည်။ သို့မဟုတ်လျှင်လည်း လက်ရှိသူကိုပင် ထားမြဲထားရမည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နာ-၅၇၈)။

---

(1) ဟာနဖီပညာရှင်များထံတွင် ဖသာဝါ ခမ္မသတ် အဆုံးအဖြတ်သည် ဗလီပိုင်ငွေကြေးများကို လုံးခြုံမှုရှိစေရန် အစိုးရဘဏ်တွင်ဖြစ်စေ သို့မဟုတ် တခြားဘဏ်တစ်ခုခုတွင်ဖြစ်စေ အပ်နှံထားပါလျှင် ၎င်းအပ်နှံထားခြင်းကြောင့် ရရှိလာသော အတိုးငွေသည် ဟာရာမ်ဖြစ်သည်။ ဗလီအတွက်သုံးစွဲပိုင်ခွင့်မရှိပေ။

(ကြည့် -ဖိက်ဟီမကာလာသ် မွတ်ဖ်သီ သကီး အွတ်ဆ်မာနီ၊ အတွဲ-၁၊ စာမျက်နာ-၂၉၆)။
ဖသာဝါ ကာစေမီယာဟ်၊ အတွဲ-၁၈၊ စာမျက်နာ-၄၉၈)။

၁၂၇။ လက်ရှိ ရှေ့ဆောင်ထက် အရည်းအချင်း ပိုမိုသော အခြားရှေ့ဆောင်ကို လဲလှယ်၍ ခန့်ထားနိုင်လေသည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၅၉၃)။

၁၂၈။ ဗလီနှင့် တစ်ဆက်တည်း ပူးကပ်၍ ဆောက်လုပ်ထားသော အဆောက်အဦးသည် အိမ်ဖြစ်စေ၊ ဆိုင်ဖြစ်စေ ဗလီအတွက် နေရာများ ကျဉ်းကြပ်လာသောအခါ၊ ထိုနီးကပ်စွာ ဆောက်လုပ်ထားသော အဆောက်အဦးများကို ဝယ်ယူရမည်။ မရောင်းသော် အတင်းဓမ္မ ဝယ်ယူပိုင်ခွင့် ရှိလေသည်။ ဤအမိန့်သည် အစ္စလာမ်မင်း (အစိုးရ) အုပ်ချုပ်သည့် နိုင်ငံနှင့်သာ သက်ဆိုင်သည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၅၇၅)။

၁၂၉။ ဗလီ မိုသဝလ္လီက သစ်ပင်၊ တဲ၊ အိမ်၊ တိုက်တာများကို မစိုက်ပျိုး။ မဆောက်တည်မည် အလျှင် မိမိအတွက် စိုက်ပျိုးကြောင်း၊ ဆောက်တည်ကြောင်းကို အသိသက်သေများ မထားရှိခဲ့ဘဲ စိုက်ပျိုးခြင်း၊ ဆောက်တည်ခြင်း ပြုခဲ့လျှင် ၎င်းစိုက်ပျိုးထားသော သစ်ပင်၊ အဆောက်အဦးများသည် ဝကပ်(ဖ်)ပိုင် သက်သက်ဖြစ်သွားသည်။

ဂါယသွလ်အောင်သွားရ်ကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၅၉၀)။

၁၃၀။ ဝကပ်(ဖ်) အာမဒ္ဒနီ ဝင်ငွေ၊ သုံးငွေများကို ကျယ်ကျယ်ပြန့်ပြန့် အသေးစိတ် စာရင်းစစ်ရာတွင် ဝေါက်ငန်းမှု၊ အကြမ်းကိုင်မှု၊ ကျိန်စာတိုက်မှု စသည်တို့ကို ပြုထိုက်သူအား ပြုလုပ်ရမည်။ သမာဓိဂုဏ်နှင့် ပြည့်စုံ၍ နာမည်ကျော်ကြား ထင်ရှားသော သစ္စာရှိသူ အလွဲ

သုံးစားမှုများမှ အလျင်း ကင်းရှင်းသူအား စာရင်းအချုပ်မျှသာ စစ်ရုံဖြင့် ကျေနပ်နိုင်ခွင့် ရှိသည်။

ဂါယသွလ်အောင်သွားရိုကျမ်း (ဒုတိယတွဲ၊ စာမျက်နှာ-၅၉၀)

၁၃၁။ ဗလီဆရာ ရှေ့ဆောင်များနှင့် ရှရ်အီ ကျောင်းဆရာများ၏ ပျက်ကွက်သော ရက်၊ လ ၏ ဝဇီဖာဟ် (ခေါ်) လစာ ပေးထိုက်၊ မပေးထိုက်၊ ယူထိုက်၊ မယူထိုက် အကြောင်းမှာ အောက်ပါအကျယ်တွင် ကြည့်ပါ။

(က) ကျောင်းဆရာများမှာ ကျောင်းပိတ်ရက် သတ်မှတ်ထားသည့် ရက်များ၌ ရက်ပျက်၊ လပျက်အတွက် ကျောင်းလစာ ယူနိုင်သည်။

(ခ) ဗလီဆရာ ရှေ့ဆောင်များအတွက်မှာမူ ဗလီလူကြီးများက သတ်မှတ်ထားသည့် ရက်များ၊ ဤအခွင့်ပြုထားသော ရက်ပျက်အတွက် လစာယူပိုင်ပါသည်။ ဗလီလူကြီးများက သတ်မှတ်ထားသည့် ရက်ထက်ပိုလျှင် မယူထိုက်၊ မပေးထိုက်။ ဤကိစ္စသည် အခ နှင့် ငှားသည်နှင့် တူသည့်အတွက် အလုပ်မလုပ်လျှင် အငှားခိုင်းသူက ပေးရန် မလိုသလို၊ အငှားလုပ်သူကလည်း မယူထိုက်။

(ဂ) ဗလီဆရာ ရှေ့ဆောင်များ၊ ကျောင်းဆရာများကလည်း မိမိတို့ အလိုသဘောနှင့် ရက်ပျက်လျှင် သို့မဟုတ် ကိုယ်ကျိုးအတွက်ကြောင့် ရက်ပျက်လျှင် လစာမယူထိုက်ပါ။

(ဃ) ဇလီဆရာ ရှေ့ဆောင်ပုဂ္ဂိုလ်များသည် အခစားနှင့် လုပ်ကြသော ပုဂ္ဂိုလ် သဘော သက်ဝင်ပါသဖြင့် ရက်ပျက်အတွက် ဇလီလူကြီးများက အားနာလို့ ပေးပြားသော်လည်း မိမိတို့ သဘောနှင့် ပျက်ကွက်မှုအတွက် ရက်ပျက်အခကို မယူကြဘဲ ရှောင်ကြည်ခြင်းက သာလွန်၍ ကောင်းလှပါကြောင်း သတိပြုကြပါစေကုန် သတည်း။

(င) ဤကိစ္စ၌ ဇလီလူကြီး၊ ကျောင်းလူကြီးများက မိမိတို့ ဇလီဆရာ ရှေ့ဆောင်များနှင့် ကျောင်းဆရာများအား အတွင်းစကားအနေနှင့် တီးတိုးကတိပေးထားဖို့ သင့်ပါသည်။ မိမိတို့၏ ရှေ့ဆောင်ပုဂ္ဂိုလ်များအား လေးစားထိုက်သလောက် လေးစားကြပါကုန်။

၁၃၂။ ဇလီလူကြီးများအား အနောက်အယှက်ပေးရန် တရားစွဲဆိုရာ၌ ကုန်ကျသော စရိတ်ကို ဇလီလူကြီးက မပေးရဘဲ ဇလီငွေမှ တရားသဖြင့် ကုန်ကျပိုင်သည်။ ဇလီငွေ ရရန်အတွက် တရားစွဲဆိုရာမှာ တရားခံထံမှ ပြန်ရရန် လမ်းမမြင်လျှင် နောက်ထပ် ဇလီငွေကို အပိုမသုံးပိုင်။ ပထမသုံးပြီးငွေကိုသာ အဆုံးခံပါ။ ပြန်မရနိုင်မည့် ငွေအတွက် နောက်ထပ် ဇလီငွေ မကုန်ပါစေနှင့်။ ဆုံးနေသော ဇလီငွေကို လူကြီးများက ကြိုးစားပါလျက် မရခဲ့သော် ... ဇလီလူကြီးများ၏ တာဝန် မဟုတ်တော့ပါ။ (ဝါ) ဇလီလူကြီးများက ၎င်းဆုံးသွားသော ငွေကို မလျော်ရပါ။

၁၃၃။ အချုပ်မှာ... တရားတော်နှင့် ညီသည့် အမှုအခင်းဖြစ်ရာ၌ ဗလီလူကြီးများက တရားလို၊ တရားခံ ဖြစ်ကြသည့်အခါမှ ဗလီငွေကို သုံးပိုင်ခွင့်ရှိပါသည်။ တရားတော်နှင့် မညီသည့် အမှုအတွက် ဗလီငွေကို သုံးပိုင်ခွင့်မရှိပါ။

၁၃၄။ မဒ်ရစဟ် ကျောင်းအတွက် ဝကပ်(ဖ်) ပြုလုပ်ထားသောအဆောက်အဦးမှ ရငွေကို ဝကပ်(ဖ်)အမျိုးအစားခြင်း မတူခြင်းကြောင့် ဗလီအတွက် မသုံးထိုက်။ အတ်ဒ်ဒွရ်ရွလ် မုခ်သားရ်ကျမ်း။

၁၃၅။ ဗလီတစ်ခု၏ အာမဒ္ဒနီ ဝင်ငွေမြောက်များစွာ ပိုလျှံနေလျှင် နီးကပ်သော ဝင်ငွေမလုံလောက်သည့် ဗလီအတွက် သုံးပိုင်သည်။

၁၃၆။ ဗလီရေကန်မှ၊ ရေတွင်းမှ ရေကို အပိုမသုံးရန် (ဝါ) အလဟဿ မဖြစ်ရန် လူကြီးများ၏ တာဝန်ဖြစ်သည်။ ဗလီရေကန်မှ ရေကို ဝိဇူ မပိုင်လောက်သည်အဖြစ် ရောက်ခါနီးမှ လဲလှယ်ပိုင်သည်။ သို့တည်း မဟုတ်က မလဲပိုင်။ လဲလှယ်ခြင်းပြုလျှင် ဗလီလူကြီးများ၏ တာဝန်ဖြစ်ပေသည်။

**[ပုံ] မောင်လာနာ ဟာဖိဇ်**
**မိုဟာမ္မဒ် ယူနွတ်စ် ဦးဘခင် ဓွာဟာဗ်**
**ကြည့်ရှု စစ်ဆေး၊ တည်းဖြတ်သည်။**
**(၁၇.၂.၆၃)**

ဤဝကပ်(ဖ်) စာတမ်းသည် မလွယ်ကူပါ။ နှစ်၊ လ များစွာ ဆည်းပူးပြီး မောင်လဝီ ပညာရှိကြီးများထံ ကျွန်တော်သည် ဝကပ်(ဖ်) နှင့် ပတ်သတ်သည့် မှန်ကန်သော တရားဝင်ဖြစ်ရန် အမျိုးမျိုး ပြောပြ မေးမြန်းရာ၊ ၎င်း မောင်လဝီကြီးများက ခိုင်လုံသော ကျမ်းစာကြီးများမှ ထုတ်နှုတ်ရေးသားထားသော ဝကပ်(ဖ်) စည်းမျဉ်းဖြစ်သည်။

မွေးမြူ ဖန်ဆင်းတော်မူသော အလ္လာဟ့် အရှင်မြတ်၊ ကျွန်တော် မျိုးကို ဤဝကပ်(ဖ်)စည်းမျဉ်း ရေးသားသည့်နေ့မှစ၍ ဆုံးသွားသည့် ရက်တိုင် လိုအပ်သော အားပေးကူညီ ရွက်ဆောင်ပေးကြသည့် မော်လဝီ ပညာရှိကြီးများအပေါ် ဒွန္နယာ၊ အာခေရသ် နှစ်ဘဝစလုံး အလ္လာဟ့် အရှင်မြတ်၏ ရဟ်မသ် အေးချမ်းသာယာ ပေးသနားတော် မူပါ။

၎င်းထို့တူ ကျွန်တော်မျိုးနှင့် မွတ်စ်လင်မ် အစ်ခ်ဝါနီ ယောက်ျား၊ မိန်းမများကိုပါ ကြီးကျယ်မြင့်မြတ်တော်မူသော အရှင့်ထံတော်မှ မဂ်ဖွေရသ် စလာမသ် အချမ်းသာ ပေးပါရန် ကျွန်တော်မျိုး ဒိုအာ မပြတ် အထပ်ထပ် တောင်းပါသည်။

အို-အရှင် အင်န်စာ- လူသားများသည် အမေ့အမှားနှင့် ကင်းလွတ်ကြမည်မဟုတ်၍ အမှားရှိခဲ့ပါလျှင် မဂ်ဖွေရသ် ချမ်းသာပေး တော်မူပါ။

رَبَّنَا ظَلَمْنَا أَنْفُسَنَا، وَإِنْ لَمْ تَغْفِرْ لَنَا، وَتَرْحَمْنَا لَنَكُوْنَنَّ مِنَ الْخَاسِرِيْنَ.

اَللَّهُمَّ عَافِنَا، وَارْحَمْنَا، وَنَجِّنَا مِنْ عَذَابِ النَّارِ.

رَبَّنَا آتِنَا فِيْ الدُّنْيَا حَسَنَةً، وَفِيْ الآخِرَةِ حَسَنَةً، وَقِنَا عَذَابَ النَّارِ.

آمِيْن، يَا أَرْحَمَ الرَّاحِمِيْنَ.

# နိဂုံးချုပ်

အချို့သူများသည် မိမိ၏အထင်၊ မိမိ၏သဘောအတိုင်း လုပ်ကိုင် ဆောင်ရွက်ချက်များသည် တရားဝင်မဟုတ်၍ ရှရီအသ်-တရားတော်မြတ်က လုံးဝ လက်မခံပါ။ လုပ်သင့်သည်ကို မလုပ်၊ မလုပ်သင့်သည်ကို လုပ်သူများ ဖြစ်သဖြင့် ရှရီအသ်-တရားတော်မြတ် ထုံး နလုံးသွင်းကြရန် အကျွင်းမရှိ ကြားသိတော်မူသော အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း ပိုင်ဆိုင်တော်မူသော ဗလီမှ စ၍ တိုက်၊ အိမ်၊ မြေ ဝကပ်(ဖ်)ပစ္စည်း အရပ်ရပ်ကို အုပ်ထိန်း စောင့်ရှောက် တာဝန်ခံလူကြီးများ ကိုယ့်အလို၊ ကိုယ့်သဘော လုံးဝ မပါစေဘဲ အလ္လာဟ်အရှင်မြတ် အဖို့ သက်သက် ဖြူစင်သော နီယသ် စေတနာနှင့် မချို့ယွင်း၊ မလစ်ဟင်းရန် စိတ်ရော ကိုယ်ပါ စေ့စေ့စပ်စပ် စနစ်တကျ အပြင်မှန် ရယူပြီး အပြစ်လွတ် စီမံ လုပ်ကိုင် ဆောင်ရွက်ကြသော လူကြီးများသည် မူလ ဝကပ်(ဖ်) ပြုလုပ်လှူဒါန်းသူများနှင့် မခြား ထပ်တူထပ်မျှ ဆဝါးဗ်ဂျာရီယာ ရကြပါလိမ့်မည်။ သို့ပါ၍ ကျွန်တော်ထုတ်ဝေသော ဤ ဝကပ်(ဖ်)ကျမ်းစာကို စ လယ် ဆုံး သုံးရပ်လုံးကို ကျကျနန ကြည့်ရှု ဖတ်ရွတ်ကြပြီး အမှား၊ အမှန် ခွဲခြား၍ အသိအမြင်မှန်နှင့် သတိမူ ဆောင်ရွက်ပါရန် ဖြူစင်သော စိတ်ထားနှင့် သတိပေး နှိုးဆော် နိဂုံးချုပ်လိုက်ပါသည်။

**[ပုံ] ဦးဇင်–ပွဲစား**

**၈၃–လမ်း၊ တောင်ဘလူရပ်၊ မန္တလေးမြို့**

**(၁၉၆၃–ခု၊ မေလ)**

